





# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊မနသ- ၁၁၃၇/၂၀၁၆ ။ ၂၀၁၆ ခုနှစ်၊ မတ်လ ၉ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ (ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဒေါ်ရင်လီရင့်(ခ)ဒေါ်လီလီစမ်း

(ခ) **အဘ အမည်** ဦးရင်ချိရန်

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၁၃/မဆတ(ပြု) ၀၀၀၀၅၂

(ဃ) **နေရပ်လိပ်စာ** အမှတ်-၇၅၊ မနော်ဟရီလမ်း၊ ဒဂုံမြို့နယ်၊ ရန်ကုန်မြို့

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း** Panda Textile Company Limited (ပန်ဒါအထည်လုပ်ငန်း ကုမ္ပဏီလီမိတက်)

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်လုပ်ငန်းအမျိုးအစား** ချည်၊ ပိတ်ညို၊ ပိတ်ချောနှင့် ဆေးဆိုး ပန်းရိုက်ထည်များ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** စက်မှုဝန်ကြီးဌာန၊အမှတ်(၃)အကြီးစား စက်မှုလုပ်ငန်း (ယခင် အထည်အလိပ်လုပ်ငန်း)ပိုင် မန္တလေးတိုင်းဒေသကြီး၊ စဥ့်ကိုင်မြို့နယ်၊ ပလိပ်မြို့၊ အမှတ်(၂)အထည်စက်ရုံ (ပလိပ်) ရှိ မြေဧရိယာ ၆၄၁.၇၅ ဧက

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ကျပ်သန်း ၁,၇၃၀ တိတိ (အမေရိကန်ဒေါ်လာ ၀.၃၇၇၃ သန်း အပါအဝင် ကျပ်တစ်ထောင့်ခုနှစ်ရာ သုံးဆယ်သန်း ခန့်)

(ဈ) **တည်ဆောက်မှုကာလ** ၁ နှစ်

(ည) **ရင်းနှီးမြှုပ်နှံမှုခွင့်ပြုသည့်သက်တမ်း** ၃၀ နှစ်

၉/၁

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ ၂၄ /၂၀၁၆(မနသ)

၂၀၁၆ ခုနှစ် မတ်လ ၉ ရက်

၁။ မြန်မာကုမ္ပဏီဖြစ်သော Panda Textile Company Limited (ပန်ဒါအထည်လုပ်ငန်း ကုမ္ပဏီလီမိတက်) သည် စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစား စက်မှုလုပ်ငန်း (ယခင် အထည်အလိပ်လုပ်ငန်း)ပိုင် မန္တလေးတိုင်းဒေသကြီး၊ စဉ့်ကိုင်မြို့နယ်၊ ပလိပ်မြို့၊ မန္တလေး-တံတားဦး မီးရထားလမ်းနှင့် ပလိပ်-တံတားဦးကားလမ်းကြား၊ အမှတ်(၂)အထည် စက်ရုံ(ပလိပ်) ရှိ မြေဧရိယာ ၆၄၁.၇၅ ဧက (၂၅၉၇၀၇၂.၄၀၅ စတုရန်းမီတာ) အား ငှားရမ်း၍ ချည်၊ ပိတ်ညို၊ ပိတ်ချောနှင့် ဆေးဆိုးပန်းရိုက်ထည်များ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီဆောင် ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြချက်ကို ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၂၆ ရက်နေ့တွင် ကျင်းပသောကော်မရှင်၏ (၇/၂၀၁၆) အစည်းအဝေးမှ ကနဦး နှစ် ၂၀ သက်တမ်း ကုန်ဆုံးမည့် အချိန်နီးမှသာ ကနဦးသက်တမ်းကို နှစ် ၅၀သို့ တိုးမြှင့်ခွင့်ကို ပြန်လည်တင်ပြရန်နှင့် လုပ်ငန်း ဆောင်ရွက်ရန် ခွင့်ပြုခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၇)၊ ပုဒ်မ၁၂(ခ) အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Panda Textile Company Limited (ပန်ဒါအထည်လုပ်ငန်း ကုမ္ပဏီလီမိတက်)ကို ချည်၊ ပိတ်ညို၊ ပိတ်ချောနှင့် ဆေးဆိုးပန်းရိုက်ထည်များ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ-၁၁၃၇/၂၀၁၆ ကို ထုတ်ပေးလိုက်သည်။

၂။ Panda Textile Company Limited (ပန်ဒါအထည်လုပ်ငန်း ကုမ္ပဏီလီမိတက်) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၁)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤ အမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ)အရ လုပ်ငန်းမှ ရရှိသောအမြတ်ငွေကို ပြန်လည် ရင်းနှီးမြှုပ်နှံရန်အတွက် သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်း ယင်းလုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန် ကင်းလွတ်ခွင့်(သို့မဟုတ်)သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ်

ပြန်လည် ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန်ကင်းလွတ်ခွင့်ခံစားပြီး တစ်ဆက်တည်း နှစ်နှစ်အတွင်း အမှန်တကယ် ပေါ်ပေါက်သည့် အရှုံးငွေကိုယင်းသို့ အရှုံးပေါ်ပေါက်သည့် နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်းအမှန်တကယ် အကောင် အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၀(ဆ)အရ လုပ်ငန်းစတင်တည်ဆောက်မှုကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဥ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာအစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်းအခွန်အကောက်များ ကင်းလွတ် ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ၂၀(ဇ)အရ ဝင်ငွေခွန်စည်းကြပ်ရန်အလို့ငှာ ယာဥ်ယန္တရား၊ စက်ပစ္စည်း ကိရိယာ၊ အဆောက်အဦ သို့မဟုတ် လုပ်ငန်းသုံး အခြားမတည်ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်ကသတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုးလျော့တွက်နှုန်းများအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုးလျော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်နှင့် စပ်လျဥ်း၍ ယင်းတန်ဖိုး လျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ၂၀(ဈ)အရ လုပ်ငန်းတည်ဆောက်မှု ပြီးစီး၍ ပထမသုံးနှစ်အတွက် ကုန်ထုတ် လုပ်ရန် တင်သွင်းသည့် ကုန်ကြမ်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြား ပြည်တွင်း အခွန်အကောက်များဖြစ်စေ၊ နှစ်မျိုးလုံးကိုဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဆ) ဥပဒေပုဒ်မ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှုပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်း ကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဥ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံး အဆောင်တန်ဆာပလာများ၊ စက်ကိရိယာအစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့်အခြား ပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက် ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀(ဆ)အရ ပြည်ပမှ တင်သွင်းသည့် ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့်ပစ္စည်း အမျိုးအစား၊ အရည် အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ် ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ Panda Textile Company Limited (ပန်ဒါအထည်လုပ်ငန်း ကုမ္ပဏီလီမိတက်) သည် ဤခွင့်ပြုမိန့်အရလုပ်ငန်း ဆောင်ရွက်ရာတွင် မူလ အဆိုပြုလွှာ၌ ဖော်ပြထားသည့် **ထုတ်လုပ်မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ** အဖြစ် ထားရှိဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၅။ Panda Textile Company Limited (ပန်ဒါအထည်လုပ်ငန်း ကုမ္ပဏီလီမိတက်) သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၆။ Panda Textile Company Limited (ပန်ဒါအထည်လုပ်ငန်း ကုမ္ပဏီလီမိတက်) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ အတည်ပြုပြီး ဖြစ်သော စက်မှုဝန်ကြီးဌာန၊ အမှတ်(၃) အကြီးစားစက်မှုလုပ်ငန်း (ယခင် အထည်အလိပ်လုပ်ငန်း)ပိုင် စက်ရုံ၊ မြေနှင့် အဆောက်အဦအား ငှားရမ်းသည့် သဘောတူစာချုပ်အပေါ် သက်တမ်းတိုးမြှင့် လုပ်ကိုင်သည့် ဒုတိယအကြိမ် ပြင်ဆင်ချက် သဘောတူစာချုပ်ကို ကော်မရှင်၏ခွင့်ပြုချက်နှင့် အညီကိုက်ညီအောင်ပြန်လည်ချုပ်ဆို ဆောင်ရွက်ရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် မြေငှားရမ်းခြင်း သက်တမ်းကာလမှာ မြေငှားစာချုပ် လက်မှတ်ရေးထိုးသည့် ၁-၄-၂၀၁၃ နေ့မှစတင်၍ ကနဦး နှစ်၂၀ နှင့် သက်တမ်းတိုးမြှင့်မည့် ကာလမှာ တစ်ကြိမ်လျှင် (၅)နှစ် စီဖြင့် (၂)ကြိမ် ဖြစ်ပါသည်။ ကနဦး နှစ် ၂၀ သက်တမ်းကုန်ဆုံးမည့် အချိန်နီးမှသာ ကနဦးသက်တမ်းကို နှစ် ၅၀ သို့ သက်တမ်းတိုးမြှင့်ခွင့်ကို ပြန်လည်တင်ပြရမည်။ ထိုသို့ စာချုပ်သက်တမ်းကာလ တိုးမြှင့်ခြင်းအား ကော်မရှင်သို့ တင်ပြ၍ ခွင့်ပြုချက်ရရှိပြီးမှသာ အတည်ဖြစ်သည်။

၈။ Panda Textile Company Limited (ပန်ဒါအထည်လုပ်ငန်း ကုမ္ပဏီလီမိတက်) သည် စက်ရုံ၊မြေနှင့် အဆောက်အဦများ၏ ငှားရမ်းခနှုန်းထားအဖြစ် တစ်နှစ်လျှင် ကျပ် ၃၆၀ သန်း

(ကျပ်သန်းသုံးရာ့ခြောက်ဆယ်တိတိ) အား စက်မှုဝန်ကြီးဌာန၊ အမှတ်(၃) အကြီးစားစက်မှုလုပ်ငန်း (ယခင် အထည်အလိပ်လုပ်ငန်း) သို့ ပေးသွင်းရမည်။

၉။ Panda Textile Company Limited (ပန်ဒါအထည်လုပ်ငန်း ကုမ္ပဏီလီမိတက်) သည် အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် မန္တလေးတိုင်းဒေသကြီး၊ စဥ့်ကိုင်မြို့နယ်၊ ပလိပ်မြို့၊ မန္တလေး-တံတားဦး မီးရထားလမ်းနှင့် ပလိပ်-တံတားဦးကားလမ်းကြား၊ အမှတ်(၂)အထည် စက်ရုံ (ပလိပ်) ကို အငှားချထားသူ စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစား စက်မှုလုပ်ငန်း (ယခင် အထည်အလိပ်လုပ်ငန်း)နှင့် အငှားချထားခြင်းခံရသူ Panda Textile Company Limited (ပန်ဒါအထည်လုပ်ငန်း ကုမ္ပဏီလီမိတက်) တို့ ချုပ်ဆိုမည့် သက်တမ်းတိုးမြှင့်လုပ်ကိုင်သည့် ဒုတိယ အကြိမ် ပြင်ဆင်ချက် သဘောတူစာချုပ်ကို ကော်မရှင်၏ ဆုံးဖြတ်ချက်နှင့် အညီ ပြင်ဆင်ချုပ်ဆို ပြီးပါက လက်မှတ်ရေးထိုး၍ ထိုက်သင့်သော တံဆိပ်ခေါင်းခွန် ထမ်းဆောင်ပြီးသည့်အခါ ယင်း သဘောတူ စာချုပ် မိတ္တူ(၅)စောင်ကို ဤကော်မရှင်သို့ မပျက် မကွက် ပေးပို့တင်ပြရမည်။

၁၀။ Panda Textile Company Limited (ပန်ဒါအထည်လုပ်ငန်း ကုမ္ပဏီလီမိတက်) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာ တွင် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများ လျော့နည်းစေရေးတို့အတွက် ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)တို့ကို ပြုလုပ်ဆောင်ရွက်ပြီး ယင်းဆောင်ရွက်ပြီးစီးမှု အခြေအနေကို ကော်မရှင်နှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာနတို့သို့ ပေးပို့အစီရင်ခံရမည်။

၁၁။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာ နှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းချက်များကို တိကျစွာ လိုက်နာဆောင် ရွက်ရမည်။

၁၂။ Panda Textile Company Limited (ပန်ဒါအထည်လုပ်ငန်း ကုမ္ပဏီလီမိတက်) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်း အလုပ်သမားများခန့်ထားရာတွင် အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာနနှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမားဆက်ဆံရေး ပြေလည်စေရန် အလေးထား ဆောင်ရွက်ရမည်။ လုပ်ငန်းခွင်သာယာရေးနှင့် စာရင်းဇယားများ စနစ်တကျရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဉ်ဆောင် ရွက်ရမည်။

၁၃။ Panda Textile Company Limited (ပန်ဒါအထည်လုပ်ငန်း ကုမ္ပဏီလီမိတက်) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ မီးဘေးအန္တရာယ် မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြု ထားသည့် အတိုင်း စနစ်တကျထားရှိ ဆောင်ရွက် ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။ထို့ပြင် ရေသိုလှောင်ကန်၊ မီးသတ်ဆေးဘူးများကဲ့သို့ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်မှု ဆောင်ရွက်ချက်များကို ဆောင်ရွက်ရမည်ဖြစ်ပြီး မီးငြိမ်းသတ်ရေး လုပ်ငန်းသုံးပစ္စည်းများကို အသုံးပြုတတ်စေရန် သင်တန်းများပေးရမည်။

၁၄။ ထို့ပြင် ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှုများ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့် အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးမူဝါဒ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ အခြားသောပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ တိကျစွာလိုက်နာ ဆောင်ရွက်ရမည်။ ယင်းသို့ဆောင်ရွက်ထားမှုအခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၅။ Panda Textile Company Limited (ပန်ဒါအထည်လုပ်ငန်း ကုမ္ပဏီလီမိတက်) သည် ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေအရ မန္တလေးတိုင်းဒေသကြီး၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင် ထားရှိဆောင်ရွက်ရမည်။

၁၆။ Panda Textile Company Limited (ပန်ဒါအထည်လုပ်ငန်း ကုမ္ပဏီလီမိတက်) သည် ကနဦး လုပ်ငန်းဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်းအကောင် အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (သုံး)လတစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ်စတင် ဆောင်ရွက်သည့်နေ့ရက်ကို စီးပွားဖြစ်စတင်ပြီး (တစ်)လ အတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၇။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှုပြုလုပ် သည့် နေရပ်ဒေသလိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်)တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ မပျက်မကွက် တင်ပြ၍ အတည်ပြုခွင့်ပြုချက်ကိုရယူရမည်။

၁၈။ Panda Textile Company Limited (ပန်ဒါအထည်လုပ်ငန်း ကုမ္ပဏီလီမိတက်) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲစည်းမျဉ်းစည်းကမ်း သတ်မှတ် ချက်များ နှင့်အညီ လိုက်နာဆောင်ရွက် ရမည်။

၁၉။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်းမရှိစေရ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ထုတ်ပေးထားသော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာဌာနများမှ ထုတ်ပေးထားသော လုပ်ငန်းလိုင်စင်များနှင့် မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှတင်သွင်းသည့် ပစ္စည်းများကို တစ်ဆင့်လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့်၊ လုပ်ငန်းလိုင်စင်တို့ကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၃၂(င)အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စီးပွားရေး လုပ်ငန်းစာရင်း၌ ထည့်သွင်း ခြင်းခံရမည်။

၂၀။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက်ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

၉၊၃

(ဇေယျာအောင်)
ဥက္ကဋ္ဌ

စာအမှတ်၊ရက-၃/မ-၁၃၂၃/၂၀၁၆ ( ၃၈၁၈ )
ရက်စွဲ၊၂၀၁၆ခုနှစ် မတ်လ ၉ ရက်

**ဖြန့်ဝေခြင်း**

သမ္မတရုံး
ဒုတိယသမ္မတ(၁)ရုံး
ဒုတိယသမ္မတ(၂)ရုံး
ပြည်ထောင်စုအစိုးရအဖွဲ့ရုံး
ပြည်ထဲရေးဝန်ကြီးဌာန
ဆက်သွယ်ရေးနှင့် သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန
ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန

လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

လူဝင်မှု ကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန

စက်မှုဝန်ကြီးဌာန

စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန

ဘဏ္ဍာရေးဝန်ကြီးဌာန

အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန

ဆောက်လုပ်ရေးဝန်ကြီးဌာန

အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန

မြန်မာနိုင်ငံတော် ဗဟိုဘဏ်

မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး

ညွှန်ကြားရေးမှူးချုပ်၊ မီးသတ်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း

ဦးဆောင်ညွှန်ကြားရေးမှူး၊
အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း(ယခင်စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း)

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်မှုမြှင့်တင်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားမှုဦးစီးဌာန

ဥက္ကဋ္ဌ၊ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်

အုပ်ချုပ်မှုဒါရိုက်တာ၊ Panda Textile Company Limited (ပန်ဒါအထည်လုပ်ငန်း ကုမ္ပဏီလီမိတက်)

ကုမ္ပဏီအမည်။ ပန်ဒါအထည်လုပ်ငန်း ကုမ္ပဏီလီမိတက်

လုပ်ငန်း။ ချည်၊ ပိတ်ညို၊ ပိတ်ချောနှင့် ဆေးဆိုးပန်းရိုက်သည်များ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုချက်လက်ခံရရှိခြင်း | ၁၈-၁-၂၀၁၆ | - | |
| ၂ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး | ၂၆-၁-၂၀၁၆ | ၂၂-၂-၂၀၁၆ | |
| | (ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီး ဌာန | ၂၆-၁-၂၀၁၆ | ၂၉-၁-၂၀၁၆ | |
| | (ဂ) စက်မှုဝန်ကြီးဌာန(ပထမအကြိမ်) | ၂၆-၁-၂၀၁၆ | ၁-၂-၂၀၁၆ | |
| | (ဒုတိယအကြိမ်) | ၂၂-၂-၂၀၁၆ | ၂၄-၂-၂၀၁၆ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေးတင်ပြခြင်း(၅/၂၀၁၆) | ၁-၂-၂၀၁၆ | | |
| ၄ | အဆိုပြုလွှာလက်ခံကြောင်းစာ ပေးပို့ခြင်း | ၂-၂-၂၀၁၆ | | |
| ၅ | အဆိုပြုလွှာပြန်လည်တင်ပြခြင်း | ၂၃-၂-၂၀၁၆ | | |
| | **စုစုပေါင်းကြာမြင့်ရက်** | **(၃၆)ရက်** | | |

| | | |
|---|---|---|
| ကုမ္ပဏီအမည် | - | ပန်ဒါအထည်လုပ်ငန်း ကုမ္ပဏီလီမိတက် |
| အဖွဲ့အစည်းပုံသဏ္ဌာန် | - | မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - | ချည်၊ ပိတ်ညို၊ ပိတ်ချောနှင့် ဆေးဆိုးပန်းရိုက် ထည်များ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| တည်နေရာ | - | အမှတ်(၂)အထည် စက်ရုံ (ပလိပ်)၊ မန္တလေး-တံတားဦး မီးရထားလမ်းနှင့် ပလိပ်-တံတားဦးကားလမ်းကြား၊ ပလိပ်မြို့၊ စဉ့်ကိုင်မြို့နယ်၊ မန္တလေးတိုင်းဒေသကြီး |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | ကျပ် ၁၇၃၀ သန်း |
| အရင်းကြေကာလ | - | ၄ နှစ် ၃ လ |
| IRR | - | ၂၀% |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်းလစာ | ကျပ် ၁.၅၄၈ သန်း (တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ကျပ် ၁.၁၆၅ သန်း |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ကျပ် ၄.၁၀၃ သန်း | |
| ၄ | ဝင်ငွေခွန် | ကျပ် ၆၈၆.၇၁၅ သန်း | ကျပ် ၆၆၉.၁၈၆ သန်း |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | | ကျပ် ၃၇၅၃.၈၂၃ သန်း |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | | ကျပ် ၈၈၄.၀၀၀ သန်း |
| ၇ | CSR ၂% | | ကျပ် ၅၁.၁၁၄ သန်း |
| ၈ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | တစ်နှစ်ဝင်ငွေကျပ်သိန်း နှစ်ဆယ်ထက်ကျော်ပါက အခွန်ပေး ဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုချက်တင်ပြထားပါသည်။ |
| ၉ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ဝန်ထမ်း (၁၀၆၁) ဦး အလုပ်အကိုင်ရရှိမည် ဖြစ်ပါသည်။ |
| | | ကျပ် ၆၉၂.၃၆၆ သန်း | ကျပ် ၃၇၅၅.၄၂၈ သန်း |
| | Cost : Benefit | ၁ : ၆ | |

အကြောင်းအရာ၊ ပန်ဒါအထည်လုပ်ငန်း ကုမ္ပဏီလီမိတက် မှ စက်မှုဝန်ကြီးဌာန၊ အမှတ်(၃) အကြီးစား စက်မှုလုပ်ငန်းရှိ (ယခင် အထည်အလိပ်လုပ်ငန်းပိုင်) အမှတ်(၂) အထည်စက်ရုံ(ပလိပ်) တွင် ချည်၊ ပိတ်ညို၊ ပိတ်ချောနှင့် ဆေးဆိုးပန်းရိုက်ထည်များ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း အား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁ | ကုမ္ပဏီအမည် | - ပန်ဒါအထည်လုပ်ငန်း ကုမ္ပဏီလီမိတက် |
| ၂ | လုပ်ငန်းအဆိုပြုသူအမည် | - ဒေါ်ရင်လီရင့် (ခ) ဒေါ်လီလီစမ်း (အဘ-ဦးရင်ချီရန်) |
| ၃ | အဆိုပြုလုပ်ငန်းအမျိုးအစား | - ချည်၊ ပိတ်ညို၊ ပိတ်ချောနှင့် ဆေးဆိုးပန်းရိုက်ထည်များ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| ၄ | လုပ်ငန်းတည်နေရာ | - မန္တလေးတိုင်းဒေသကြီး၊ စဉ့်ကိုင်မြို့နယ်၊ ပလိပ်မြို့၊ မန္တလေး-တံတားဦး မီးရထားလမ်းနှင့် ပလိပ်-တံတားဦးကားလမ်းကြား၊ အမှတ်(၂)အထည် စက်ရုံ (ပလိပ်) ရှိ မြေဧရိယာ ၆၄၁.၇၅ (၂၅၉၇၀၇၂.၄၀၅ စတုရန်းမီတာ) ဧက |
| ၅ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - **ကျပ် ၁၇၃၀ သန်း** (US$ ၀.၃၇၃ သန်း အပါအဝင်) |

| | US$(သန်း) | ကျပ်(သန်း) | စုစုပေါင်း ကျပ်(သန်း) |
|---|---|---|---|
| - ငွေပမာဏ | | ၉၅၉.၇ | ၉၅၉.၇ |
| - စက်နှင့်ပစ္စည်းတန်ဖိုး (ပြည်ပ) | ၀.၃၇၃ | | ၄၁၀.၃ |
| - အဆောက်အအုံများ/မြေ | | ၃၆၀.၀ | ၃၆၀.၀ |
| **စုစုပေါင်း** | **၀.၃၇၃** | **၁၃၁၉.၇** | **၁၇၃၀.၀** |

| | | |
|---|---|---|
| ၆ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - ကနဦး ၅၀ နှစ် (၁၀ နှစ် ၂ ကြိမ် သက်တမ်းတိုး) |
| ၇ | မြေပိုင်ရှင် | - စက်မှုဝန်ကြီးဌာန၊ အမှတ်(၃) အကြီးစားစက်မှုလုပ်ငန်း (ယခင် အထည်အလိပ်လုပ်ငန်း) |
| | မြေနှင့် ဆောက်အဦ အကျယ်အဝန်း | - မြေဧက ၆၄၁.၇၅ ဧက (၂၅၉၇၀၇၂.၄၀၅ စတုရန်းမီတာ)<br>- ၇၄၀ ပေ x ၃၃၅ ပေ ရှိ ချည်မျှင်နှင့် အထည်စက်ရုံ အဆောက်အဦ (၁)လုံး<br>- ၆၁၀ ပေ x ၂၈၀ ပေ ရှိ ချည်မျှင်နှင့် အထည်ချောကိုင်စက်ရုံ အဆောက်အဦ (၁)လုံး တို့ ပါဝင်ပါသည်။ |
| | စုစုပေါင်း ငှားရမ်းခ | - တစ်နှစ် ကျပ် ၃၆၀.၀၀ သန်း |

ကန့်သတ်

| | | |
|---|---|---|
| | | (၁ လငှားရမ်းခ ကျပ် ၃၀.၀၀ သန်းဖြင့် ၃လအတွက် ငှားရမ်းခ ကျသင့်ငွေ ကျပ် ၉၀.၀၀ သန်းကို ၃ လ လျှင် တစ်ကြိမ် အား ပထမလ၏ ၁၅ ရက်အတွင်း ကြိုတင်ပေးသွင်း ရမည်ဖြစ်ကြောင်း ဖော်ပြထား ပါသည်။) |
| | မြေငှားသက်တမ်း | - ကနဦး ၅၀ နှစ် (၁၀ နှစ် ၂ ကြိမ် သက်တမ်းတိုး)<br>- (၁-၄-၂၀၁၃ မှ စတင်ငှားရမ်းမည်ဖြစ်ပြီး လက်ကျန် သက်တမ်းသည် ၄၇ နှစ် ဖြစ်ပါသည်။) |
| ၈ | တည်ဆောက်ရေးကာလ | - ၁ နှစ် |
| | ပဏာမ စူးစမ်းလေ့လာမှု ကာလ | - ၂ လ |
| ၉ | ရောင်းချမည့်နည်းစနစ် | - ပြည်တွင်း ၈၀% နှင့် ပြည်ပ ၂၀% |
| ၁၀ | ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်း (၆နှစ်မြောက်) | - |

| အမျိုးအစား | ထုတ်လုပ်မှု အရေအတွက် | ရောင်းဈေးနှုန်း ပြည်တွင်း(ks) | ရောင်းဈေးနှုန်း ပြည်ပ(US$) |
|---|---|---|---|
| ၁။ ချည်(၁/၃၀၊ ၁/၃၂) (lb) | ၂,၉၆၉,၅၈၀ | ၁၃၅၀ | - |
| ၂။ မာဆရိုက်ချည်(lb) | ၁,၅၄၈,၂၈၈ | ၁၈၅၀ | - |
| ၃။ ပိတ်ညိုကုန်ကြမ်း(meter) | ၁၆,၇၁၆,၀၂၅ | ၆၆၃ | - |
| ၄။ ဆေးဆိုးပိတ်/အဖြူချွတ်ပိတ် (၆၀%)(meter) | ၆,၇၈၉,၀၀၀ | ၄၉၀ | ၀.၅၅ |
| ၅။ ပန်းရိုက်ပိတ်(၄၀%)(meter) | ၄,၅၂၆,၀၀၀ | ၇၉၆ | ၀.၈၅ |

| | | |
|---|---|---|
| ၁၁ | ကုမ္ပဏီဝင်ငွေ(၆ နှစ်မြောက်) | - ကျပ် ၁၃,၂၉၃.၂၆ သန်း |
| | အသုံးစရိတ်(၆ နှစ်မြောက်) | - ကျပ် ၁၃,၀၀၆.၀၃ သန်း |
| | အသားတင်အမြတ်(၆ နှစ်မြောက်) | - ကျပ် ၂၈၇.၂၃ သန်း |
| ၁၂ | ဝန်ထမ်းအင်အားစုစုပေါင်း(ပထမနှစ်) | - **၁၀၇၆ ဦး** |
| | ပြည်တွင်း | - ၁၀၆၁ ဦး (အနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာ ကျပ် ၁၀၈,၀၀၀ နှင့် အမြင့်ဆုံး ဝန်ထမ်း တစ်ဦး၏ လစာ ကျပ် ၅၀၀,၀၀၀) |
| | ပြည်ပ | - ၁၅ ဦး (ပြည်ပ ဝန်ထမ်းတစ်ဦး၏ လစာ US$ ၈၀၀ ဖြစ်ပါသည်။)<br>- ပြည်တွင်း ဝန်ထမ်းဦးရေ ၁၀၆၁ ဦး တွင် လွှဲယူထားသော အစိုးရဝန်ထမ်း ၈၄၉ ဦးနှင့် ကုမ္ပဏီမှ ထပ်ခန့်မည့် ဝန်ထမ်း ၂၁၂ ဦး တို့ ပါဝင်ပါသည်။ |
| ၁၃ | အရင်းကြေကာလ | - ၄ နှစ် ၃ လ |
| ၁၄ | အရင်းအနှီးပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း(IRR) | - ၂၀% |

| | | |
|---|---|---|
| ၁၅ | နိုင်ငံတော်မှ ရရှိမည့်အကျိုးအမြတ် (၆ နှစ်မြောက်) | ( 1 US$ = ၁,၁၀၀ ကျပ်) |
| | ဝင်ငွေခွန် | - ကျပ် ၉၅.၇၅ သန်း |
| | ကုန်သွယ်လုပ်ငန်းခွန် | - ကျပ် ၆၂၇.၆၉ သန်း |
| ၁၆ | နှစ်စဉ်လျှပ်စစ်ဓာတ်အားလိုအပ်ချက် | - ၄၁၀,၀၀၀ Unit |
| ၁၇ | ငွေကြေးအထောက်အထား | - ပန်ဒါအထည်လုပ်ငန်း ကုမ္ပဏီလီမိတက် သည် ၂၇-၅-၁၉၉၈ ရက်စွဲဖြင့် ၃၀-၉-၂၀၂၀ အထိ သက်တမ်းရှိသည့် ကုမ္ပဏီမှတ်ပုံတင်အမှတ် ၂၁၃/ ၁၉၉၈-၁၉၉၉ ကုမ္ပဏီဖွဲ့စည်းထားသည့် အထောက်အထားနှင့် ငွေရေးကြေးရေး အထောက်အထား အဖြစ် ဒေါ်ရင်လီရင့် သည် ဧရာဝတီဘဏ်တွင် ၅-၁၁-၂၀၁၅ ရက်စွဲဖြင့် ကျပ် ၄၀၉,၉၃၇,၆၇၅.၅၉ ရှိကြောင်း၊ ပန်ဒါအထည် လုပ်ငန်း ကုမ္ပဏီလီမိတက် သည် မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်းရောင်းဝယ်ရေးဘဏ်တွင် ၃-၁၁-၂၀၁၅ ရက်စွဲဖြင့် အမေရိကန်ဒေါ်လာ ၈,၇၆၉၈.၃၇ ရှိကြောင်း အထောက်အထားများအား တင်ပြထားပါသည်။ |
| ၁၈ | စိစစ်တင်ပြချက် | - မြေပိုင်ရှင် စက်မှုဝန်ကြီးဌာန၊ အမှတ်(၃) အကြီးစား စက်မှုလုပ် ငန်း (ယခင် အထည်အလိပ်လုပ်ငန်း) နှင့် ပန်ဒါအထည်လုပ်ငန်း ကုမ္ပဏီလီမိတက် တို့ ချုပ်ဆိုထားသည့် အမှတ်(၂) အထည်စက်ရုံအား ငှားရမ်းသည့် သဘောတူစာချုပ်၊ ပထမအကြိမ် ပြင်ဆင်ဖြည့်စွက်သည့် စာချုပ်၊ ပြည်ထောင်စုရှေ့နေ ချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့် အညီ ဒုတိယ အကြိမ် ပြင်ဆင်ဖြည့်စွက်သည့် စာချုပ် (မူကြမ်း)နှင့် စက်ရုံ၊ မြေနှင့် အဆောက်အဦများအား နှစ်ရှည်ငှား ရမ်းခွင့်ပြုသည့် တင်ဒါအောင်မြင်သည့် အထောက်အထားများကို တင်ပြထားပါသည်။<br>- ကုမ္ပဏီ၏ အမြတ်ငွေထဲမှ CSR အတွက် ၂% သုံးစွဲမည်ဖြစ်ကြောင်း ဖော်ပြထားပါသည်။ |
| ၁၉ | မီးဘေးကာကွယ်ရေးစီမံချက် | - ကုမ္ပဏီမှ စက်ရုံအဆောက်အအုံများ၊ စက်နှင့် စက်ပစ္စည်းများ၊စက်အပိုနှင့် အရန်ပစ္စည်းများ၊ မော်တော်ယာဉ်များ၊ လျှပ်စစ်နှင့် ဆက်သွယ်ရေး ပစ္စည်းများ၊ လောင်စာဆီ၊ စက်ဆီ၊ ချောဆီနှင့် ဓါတုဗေဒပစ္စည်းများ၊ ရုံးသုံးပရိဘောဂပစ္စည်းများ၊ ရုံးစာရွက် စာတမ်းများအားလုံး မီးလောင်ဆုံးရှုံးမှု မဖြစ်စေရန်အတွက် ကြိုတင်ကာကွယ်ရေးနှင့် မီးလောင်မှုဖြစ်ပွားပါက အချိန်တိုအတွင်း စနစ်တကျ မီးငြိမ်းသတ်ရေးတို့ ဆောင်ရွက်ထားရှိပါကြောင်း မီးဘေးအန္တရာယ်ကြို တင်ကာကွယ်ရေးစီမံချက်များကိုတင်ပြထားပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရကာ-၃/ မ-၁၃၂၃/ ၂၀၁၆(၂၉၉-က)
ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၂၄ ရက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြသည့်
အမှာစာ

အကြောင်းအရာ။ **ပန်ဒါအထည်လုပ်ငန်း ကုမ္ပဏီလီမိတက် မှ စက်မှုဝန်ကြီးဌာန၊ အမှတ်(၃) အကြီးစား စက်မှုလုပ်ငန်းရှိ (ယခင် အထည်အလိပ်လုပ်ငန်းပိုင်) အမှတ်(၂) အထည်စက်ရုံ(ပလိပ်) တွင် ချည်၊ ပိတ်ညို၊ ပိတ်ချောနှင့် ဆေးဆိုးပန်းရိုက် ထည်များ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း အား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

၁။ ပန်ဒါအထည်လုပ်ငန်း ကုမ္ပဏီလီမိတက် မှ စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစား စက်မှုလုပ်ငန်းရှိ (ယခင် အထည်အလိပ်လုပ်ငန်းပိုင်) အမှတ်(၂)အထည်စက်ရုံ(ပလိပ်)၊ မန္တလေး-တံတားဦး မီးရထားလမ်းနှင့် ပလိပ်-တံတားဦးကားလမ်းကြား၊ ပလိပ်မြို့၊ စဉ့်ကိုင်မြို့နယ်၊ မန္တလေးတိုင်း ဒေသကြီး ရှိ မြေဧက ၆၄၁.၇၅ (၂၅၉၇၀၇၂.၄၀၅ စတုရန်းမီတာ) ကို ငှားရမ်း၍ ချည်၊ ပိတ်ညို၊ ပိတ်ချောနှင့် ဆေးဆိုးပန်းရိုက် ထည်များ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်ရင်လီရင့် (ခ) ဒေါ်လီလီစမ်း (အဘ-ဦးရင်ချိုရန်)မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် သို့ အဆိုပြုချက် တင်ပြ လာပါသည်။

၂။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုသက်တမ်းမှာ ကနဦး ၅၀ နှစ် (၁၀ နှစ် ၂ ကြိမ် သက်တမ်းတိုး) ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၁နှစ် နှင့် ပဏာမ စူးစမ်းလေ့လာမှု ကာလ ၂ လ ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။ မြေနှင့် အဆောက်အဦ ငှားရမ်းသက်တမ်းမှာ ကနဦး နှစ်၅၀ နှင့် သက်တမ်းတိုး ၁၀နှစ် ၂ကြိမ် ဖြစ်ပါသည်။ လုပ်ငန်းဆောင်ရွက်မည့်မြေဧရိယာ ဧက ၆၄၁.၇၅ ဧက (၂၅၉၇၀၇၂.၄၀၅ စတုရန်း မီတာ)တွင် စက်ရုံဧရိယာ ၁၁၄.၈၄ ဧက၊ ဝန်ထမ်းအိမ်ယာ ဧရိယာ ၁၈၂.၉၉ ဧက၊ စိုက်ပျိုးနိုင်သည့် ဧရိယာ ၁၃၃.၃၃ ဧကနှင့် အခြားဧရိယာ ၂၁၀.၅၉ ဧက တို့ ပါဝင် ပါပြီး ၇၄၀ ပေ x ၃၃၅ ပေ ရှိ ချည်မျှင်နှင့် အထည်စက်ရုံ အဆောက်အဦ (၁)လုံးနှင့် ၆၁၀ ပေ x ၂၈၀ ပေ ရှိ ချည်မျှင်နှင့် အထည်ချော ကိုင်စက်ရုံ အဆောက်အဦ (၁)လုံး တို့ အပါအဝင် နှစ်စဉ်ငှားရမ်းခ တစ်နှစ်လျှင် ကျပ် ၃၆၀.၀၀ သန်း ဖြစ်ပါသည်။

၃။ လုပ်ငန်း၏ရင်းနှီးမြှုပ်နှံမှုပမာဏမှာ စုစုပေါင်း ကျပ် ၁၇၃၀ သန်း (US$ ၀.၃၇၃ သန်း အပါအဝင်) ဖြစ်ပြီး အဆိုပြု လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု အခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | US$(သန်း) | ကျပ်(သန်း) | စုစုပေါင်းကျပ်(သန်း) |
|---|---|---|---|---|
| (က) | ငွေပမာဏ | | ၉၅၉.၇ | ၉၅၉.၇ |
| ( ခ ) | စက်နှင့်ပစ္စည်းတန်ဖိုး (ပြည်ပ) | ၀.၃၇၃ | | ၄၁၀.၃ |
| ( ဂ ) | အဆောက်အအုံများ/မြေ | | ၃၆၀.၀ | ၃၆၀.၀ |
| | **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု** | **၀.၃၇၃** | **၁၃၁၉.၇** | **၁၇၃၀.၀** |

၄။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်း ၁၀၆၁ ဦးနှင့် ပြည်ပ ၁၅ ဦး စုစုပေါင်း ၁၀၇၆ ဦးခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်း အနိမ့်ဆုံးဝန်ထမ်း တစ်ဦး၏ လစာမှာ ကျပ် ၁၀၈,၀၀၀ ဖြစ်ပြီး အမြင့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ ကျပ် ၅၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်း တစ်ဦး၏ လစာမှာ US$ ၈၀၀ ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်း ၁၀၆၁ ဦးတွင် စက်မှုဝန်ကြီးဌာန မှ လွှဲယူထားသော ဝန်ထမ်း ၈၄၉ ဦးပါဝင်ပါသည်။

၅။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိသော အထည်များကို ပြည်တွင်းတွင် ၈၀% နှင့် ပြည်ပသို့ ၂၀% တင်ပို့ရောင်းချမည်ဖြစ်ပါသည်။ ထုတ်လုပ်မှု(၆-နှစ်မြောက်)နှင့် ရောင်းဈေး နှုန်းများမှာ အောက်ပါ အတိုင်းဖြစ်ပါသည်-

| **စဉ်** | **အမျိုးအမည်** | **ထုတ်လုပ်မှု** | **ရောင်းဈေးနှုန်း** | |
|---|---|---|---|---|
| | | | **ပြည်တွင်း(ကျပ်)** | **ပြည်ပ(US$)** |
| (က) | ချည်(၁/၃၀၊ ၁/၃၂) (lb) | ၂,၉၆၉,၅၈၀ | ၁၃၅၀ | - |
| (ခ) | မာဆရိုက်ချည်(lb) | ၁,၅၄၈,၂၈၈ | ၁၈၅၀ | - |
| (ဂ) | ပိတ်ညိုကုန်ကြမ်း(meter) | ၁၆,၇၁၆,၀၂၅ | ၆၆၃ | - |
| (ဃ) | ဆေးဆိုးပိတ်/အဖြူချက်ပိတ် (၆၀%)(meter) | ၆,၇၈၉,၀၀၀ | ၄၉၀ | ၀.၅၅ |
| (င) | ပန်းရိုက်ပိတ်(၄၀%)(meter) | ၄,၅၂၆,၀၀၀ | ၇၉၆ | ၀.၈၅ |

၆။ လုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် ကုမ္ပဏီမှ ၆-နှစ်မြောက်တွင် ရရှိမည့်ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ တစ်ဖက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | | ကျပ်(သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၁၃,၂၉၃.၂၆ |
| (ခ) | အသုံးစရိတ် | ၁၃,၀၀၆.၀၃ |
| (ဂ) | အသားတင်အမြတ် | ၂၈၇.၂၃ |

၇။ နိုင်ငံတော်မှ ၆-နှစ်မြောက်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် ၉၅.၇၅ သန်းနှင့် ကုန်သွယ်လုပ်ငန်းခွန် ကျပ် ၆၂၇.၆၉ သန်း ရရှိမည်ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ အရင်းကြေကာလမှာ ၄ နှစ် ၃ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR)မှာ ၂၀% ဖြစ်ပါသည်။ 1 US$ လျှင် ၁,၁၀၀ ကျပ် နှုန်းဖြင့်တင်ပြထားပါသည်။

၈။ အဆိုပြုချက်နှင့် စပ်လျဉ်း၍ မန္တလေးတိုင်းဒေသကြီး အစိုးရအဖွဲ့ရုံး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနနှင့် စက်မှုဝန်ကြီးဌာနများသို့ သဘောထားမှတ်ချက်များ တောင်းခံခဲ့ရာ အောက်ပါအတိုင်း သဘောထားပြန်ကြားလာပါသည်-

(က) **မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့** မှ ၁၈-၂-၂၀၁၆ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် အစည်းအဝေး အမှတ်စဉ် ၆/၂၀၁၆ ဆုံးဖြတ်ချက်ပိုဒ် ၈၁ အရ ကန့်ကွက်ရန် မရှိပါကြောင်း သဘောထားပြန်ကြားလာပါသည်။

**နောက်ဆက်တွဲ - က**

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန** မှ အဆိုပြုလုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် ကိစ္စနှင့်ပတ်သက်၍ အောက်ဖော်ပြပါ အချက်များအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါ ကြောင်း သဘောထားမှတ်ချက်ပြန်ကြားထားပါသည်-

(၁) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင် လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျှော့နည်းစေရန်အတွက် လုပ်ငန်းစီမံချက်များ ချမှတ်ခြင်း၊ ထုတ်လုပ်ခြင်း လုပ်ငန်းအဆင့်ဆင့်တို့အတွက် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် လုပ်ငန်းစနစ်များ၊ စက်ပစ္စည်းများကို အသုံးပြုခြင်းနှင့် အဆို ပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးအကျိုးပြုလုပ်ငန်းများ အတွက် တာဝန်ယူ ဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက် နှစ်စဉ် အမြတ်ငွေ၏(၂%)အား အသုံးပြုရန် အပါအဝင် ကတိကဝတ်များအား လိုက်နာအကောင် အထည်ဖော် ဆောင်ရွက်ရန်။

(၂) လုပ်ငန်းများဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုမရှိစေရေး(သို့မဟုတ်) ထိခိုက်မှု အနည်းဆုံးဖြစ်စေရန် ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) ဆောင်ရွက်ပြီး အစီရင်ခံတင်ပြရန်။

(၃) အထက်ပါလေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေး ဆိုင်ရာထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း၊ စွန့်ပစ်အရည်/အခိုးအငွေ့ စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြည့် လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ပါဝင်သည့်ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်(Environmental Management Plan-EMP)ကို ရေးဆွဲ တင်ပြ၍ စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(၄) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များ အတိုင်း လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်။ **ကုမ္ပဏီမှ ရေးဆိုးစွန့်ပစ်မှု အစီအစဉ်များနှင့် Water Treatment တပ်ဆင်ထားမှုအား တင်ပြထားပါသည်။ EIA Report အား UVE Environmental Assessment Group သို့ လုပ်ငန်းအပ်နှံဆောင်ရွက်ထားပါကြောင်းနှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ သဘောထားမှတ်ချက်များနှင့် အညီ ဆောင်ရွက်မည် ဖြစ်ကြောင်း ဝန်ခံကတိတင်ပြထားပါသည်။**

**နောက်ဆက်တွဲ - ခ**

(ဂ) **စက်မှုဝန်ကြီးဌာန** မှ လျှပ်စစ်သွယ်တန်း အသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့် အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက် ရန် လိုအပ်ပါကြောင်း၊ မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေး တို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေနှင့် အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ ကုန်ထုတ်လုပ်ငန်း လုပ်ကိုင်ရာတွင် ဓါတုပစ္စည်းနှင့် ဆက်စပ်

ပစ္စည်းများအန္တရာယ်မှ ကာကွယ်ရေး ဥပဒေနှင့် အညီ လိုက်နာဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ ကုန်ကြမ်းသုံးစွဲမှုနှုန်း တင်ပြချက်တွင် ပိတ်ညှိရက်လုပ်ရန် အတွက် ကုန်ကြမ်း ချည်သုံးစွဲမှု နှုန်းနှင့် ဖြတ်စအလေအလွင့်ရာခိုင်နှုန်း အနည်းငယ်များနေသဖြင့် လျှော့နည်းပြင်ဆင် တင်ပြရန် လိုအပ်ပါကြောင်း၊ နှစ်အလိုက် ကုန်ကြမ်းလိုအပ်ချက်အား ပြင်ဆင်တင်ပြရန် လိုအပ်ပါကြောင်းနှင့် ထုတ်ကုန်ပစ္စည်းများအား ပြည်တွင်း ၈၀% နှင့် ပြည်ပသို့ ၂၀% ရောင်းချမည်ဖြစ်ရာ ဆေးဆိုး ပိတ်/အဖြူချွတ်ပိတ်၏ ပြည်တွင်းရောင်းဈေးနှုန်းမှာ ပြည်ပရောင်းဈေးနှုန်းထက်အနည်းငယ် များနေသဖြင့် လျှော့၍ပြင်ဆင်တင်ပြရန် လိုအပ်ပါကြောင်း မှတ်ချက်ပြုခြင်းအပေါ် **ကုမ္ပဏီမှ ပြင်ဆင်တင်ပြခြင်းကို စက်မှုဝန်ကြီးဌာနမှ လက်ခံနိုင်ကြောင်း စိစစ်ပြီးဖြစ်ပါသည်။** **နောက်ဆက်တွဲ-ဂ**

၉။ ပန်ဒါအထည်လုပ်ငန်း ကုမ္ပဏီလီမိတက် သည် ၂၇-၅-၁၉၉၈ ရက်စွဲဖြင့် ၃၀-၉-၂၀၂၀ အထိ သက်တမ်းရှိသည့် ကုမ္ပဏီမှတ်ပုံတင်အမှတ် ၂၁၃/ ၁၉၉၈-၁၉၉၉ ကုမ္ပဏီဖွဲ့စည်းထားသည့် အထောက် အထားနှင့် ငွေရေးကြေးရေး အထောက်အထား အဖြစ် ဒေါ်ရင်လီရင့် သည် ရောဝတီဘဏ်တွင် ၅-၁၁-၂၀၁၅ ရက်စွဲဖြင့် ကျပ် ၄၀၉,၉၃၇,၆၇၅.၅၉ ရှိကြောင်း၊ ပန်ဒါအထည်လုပ်ငန်း ကုမ္ပဏီလီမိတက် သည် မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်းရောင်းဝယ်ရေးဘဏ်တွင် ၃-၁၁-၂၀၁၅ ရက်စွဲဖြင့် အမေရိကန်ဒေါ်လာ ၈,၇၆၉၈.၃၇ ရှိကြောင်း အထောက် အထားများအား တင်ပြထားပါသည်။

၁၀။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊ နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းထားသည့် စည်းကမ်းချက်များ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာဆောင်ရွက်မည် ဖြစ်ပါ ကြောင်း၊ ပတ်ဝန်းကျင်လေထု၊ ရေထုနှင့်မြေထုတို့ ညစ်ညမ်းမှုမဖြစ်ပွားစေရန်အတွက် လိုအပ်သော အစီအမံများ၊ မီးဘေးကြိုတင်ကာကွယ်မှုများ ဆောင်ရွက်မည်ဖြစ်ပါကြောင်း၊ စက်မှုဝန်ကြီးဌာနသို့ ပေးသွင်းရမည့် မြေငှားရမ်းခများကို တိကျမှန်ကန်စွာ ပေးသွင်းမည်ဖြစ်ပါကြောင်း၊ တစ်နှစ်လျှင် ဝင်ငွေ ကျပ်၂၀ သိန်းအထက် ရရှိသော ဝန်ထမ်းများ၏လစာဝင်ငွေအပေါ် ကျသင့်မည့် ဝင်ငွေခွန်များ အား မှန်ကန်စွာတွက်ချက်၍ ပေးဆောင်ပါမည် ဖြစ်ကြောင်း ဝန်ခံကတိပြုထား ပါသည်။

၁၁။ ဝန်ထမ်းများသက်သာချောင်ချိရေးနှင့် သာယာပျော် ရွှင်ရေး အစီအမံများ၊ မီးဘေးကြိုတင်ကာကွယ်ရေး စီမံချက်၊ ပတ်ဝန်းကျင်ညစ်ညမ်းမှု မရှိစေရန် ဆောင် ရွက်ထားရှိမှု အခြေအနေ၊ လျှပ်စစ်ဓာတ်အားကို မဟာဓါတ်အားလိုင်းမှ ရယူဆောင်ရွက်သွားမည်ဖြစ်ပြီး လျှပ်စစ်မီးမရရှိသည့်

အချိန်တွင် ကိုယ်ပိုင်မီးစက်များကို အသုံးပြုဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဝန်ခံကတိပြုချက်၊ ထုတ်လုပ်မည့် ပစ္စည်းဓာတ်ပုံများ၊ အဆောက်အဦ ဓာတ်ပုံများ၊ လုပ်ငန်းသဘာဝရှင်းလင်းချက်များ ကို တင်ပြထားပါသည်။

၁၂။ **မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်** အနေဖြင့် ကုမ္ပဏီမှ စက်ရုံအဆောက်အအုံများ၊ စက်နှင့် စက် ပစ္စည်းများ၊စက်အပိုနှင့် အရန်ပစ္စည်းများ၊ မော်တော် ယာဉ်များ၊ လျှပ်စစ်နှင့် ဆက်သွယ်ရေး ပစ္စည်းများ၊ လောင်စာဆီ၊ စက်ဆီ၊ ချောဆီနှင့် ဓါတုဗေဒပစ္စည်းများ၊ ရုံးသုံး ပရိဘောဂပစ္စည်းများ၊ ရုံးစာရွက် စာတမ်း များအားလုံး မီးလောင်ဆုံးရှုံးမှု မဖြစ်စေရန်အတွက် ကြိုတင်ကာကွယ်ရေးနှင့် မီးလောင်မှုဖြစ်ပွားပါက အချိန်တိုအတွင်း စနစ်တကျ မီးငြိမ်းသတ်ရေးတို့ ဆောင်ရွက်ထားရှိပါကြောင်း မီးဘေးအန္တရာယ်ကြို တင်ကာကွယ်ရေးစီမံချက်ကို တင်ပြထားပါ သည်။

၁၃။ ထုတ်လုပ်မည့် ချည်မျှင်၊ ရက်ကန်း၊ ချည်အခင်ဆေးဆိုး၊ ကုံးလုံးဆေးဆိုး၊ အထည်အချော ကိုင်နှင့် ပတ်တီးများ၏ ထုတ်လုပ်မှုကုန်သွားလမ်းကြောင်း (Process Flow Chart) ကို တင်ပြထား ပါသည်။

၁၄။ ပန်ဒါအထည်လုပ်ငန်း ကုမ္ပဏီလီမိတက်မှ မြန်မာနိုင်ငံတော်ရှိ လူ့အဖွဲ့အစည်းများ၏ လူမှုရေး လှုပ်ရှား ဆောင်ရွက်မှုများအတွက် နှစ်စဉ်အမြတ်ငွေ၏ ၂% အား CSR ရန်ပုံငွေအဖြစ်ထားရှိ သုံးစွဲ မည်ဖြစ်ကြောင်းတင်ပြထားပါသည်။

၁၅။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၁ ရက်နေ့တွင် ကျင်းပသော (၅/၂၀၁၆) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၆။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း ၁၁၊ ပုဒ်မ ၂၀ (က၊ ဂ၊ ဃ၊ စ၊ ဆ၊ ဇ၊ ဈ၊ ည၊ ဋ) တို့အရ အခွန်ကင်းလွတ်ခွင့်(သို့မဟုတ်) သက်သာခွင့်များကို တင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင် မည်ဖြစ်ပါသည်။

**စိစစ်တင်ပြချက်**

၁၇။ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်။

(က) စက်မှုဝန်ကြီးဌာန(ယခင် အထည်အလိပ်လုပ်ငန်း)နှင့် ပန်ဒါအထည်လုပ်ငန်း ကုမ္ပဏီ လီမိတက်ချုပ်ဆိုထားသော အမှတ်(၂)အထည်စက်ရုံ(ပလိပ်)အား ငှားရမ်း ဆောင်ရွက် သည့် မူလ သဘောတူစာချုပ်၏ ငှားရမ်းမည့် အချိန်ကာလမှာ ၁-၄-၂၀၁၃ မှ ၃၁-၃-၂၀၄၃ အထိ ၃၀ နှစ် သက်တမ်းဖြစ်ပါသည်။ ၃၀-၅-၂၀၁၄ ရက်နေ့တွင် ချုပ်ဆိုထားသည့် ငှားရမ်းခြင်း

သဘောတူစာချုပ်အား (ပဏာမအကြိမ်) ပြင်ဆင်ဖြည့်စွက်သည့် သဘောတူစာချုပ်အား တင်ပြထားပါသည်။

(ခ) ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေး၏ ၁၁/၂၀၁၃ (၂၈-၃-၂၀၁၃)၏ ခွင့်ပြုချက်ဖြင့် စက်ရုံအား နှစ် ၃၀ ငှားရမ်းဆောင်ရွက်ခဲ့ပါသည်။ နှစ် ၃၀ မှ ကနဦး နှစ် ၅၀ (၁၀နှစ် ၂ ကြိမ် သက်တမ်းတိုး) ဆောင်ရွက်ခွင့်အား စက်မှုဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီ အစည်းအဝေးအမှတ်စဉ် ၁၈/၂၀၁၅-၂၀၁၆(၂-၁၂-၂၀၁၅) မှ ခွင့်ပြုကြောင်း တင်ပြထားပါသည်။

(ဂ) သက်တမ်းတိုးမြှင့် လုပ်ကိုင်သည့်ပြင်ဆင်ချက် သဘောတူစာချုပ် အား ၅၀+၁၀+၁၀ နှစ်ဖြင့် သက်တမ်းတိုးမြှင့်ခြင်းနှင့် ၄င်းပြင်ဆင်ချက် သဘောတူစာချုပ် (မူကြမ်း)အား ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်များနှင့် တင်ပြထားပါသည်။

(ဃ) ၁ လ ငှားရမ်းခ ကျပ် (၃၀.၀၀)သန်းဖြင့် ၃ လအတွက် ငှားရမ်းခကျသင့်ငွေ ကျပ် ၉၀.၀၀ သန်း ကို ၃ လ လျှင် တစ်ကြိမ် ပေးသွင်းရမည်။ ၃ လအတွက် ငှားရမ်းခကို ပထမလ၏ ၁၅ ရက်အတွင်း ကြိုတင်ပေးသွင်းရမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။ တစ်နှစ် ငှားရမ်းခနှုန်းမှာ ကျပ် ၃၆၀ သန်းဖြစ်ပါသည်။

(င) တစ်နှစ်ငှားရမ်းခ၏ ၁၀% နှင့်ညီမျှသော တန်ဖိုးအား လုပ်ငန်း ဆောင်ရွက်ရန် အာမခံ (Performance Bank Guarantee) အဖြစ် မြန်မာ့စီးပွားရေးဘဏ် (နေပြည်တော်) (သို့မဟုတ်) မြန်မာ့စီးပွားရေးဘဏ် ဘဏ်ခွဲ(၃)(ရန်ကုန်) တွင် အပ်နှံထားရှိ၍ ထားရှိမှု မှတ်တမ်းအား အမှတ် (၃) အကြီးစား စက်မှုလုပ်ငန်း (ယခင် အထည်အလိပ်လုပ်ငန်းပိုင်)တွင် သိမ်းဆည်းထားရှိရမည်ဟု ဖော်ပြထားပါ သည်။

(စ) ကုန်သွယ်လုပ်ငန်းခွန်အား နိုင်ငံတော်မှ အခါအားလျော်စွာ ထုတ်ပြန်ထားသော တည်ဆဲဥပဒေ၊ အမိန့်၊ ညွှန်ကြားချက်၊ လုပ်ထုံးလုပ်နည်းများနှင့် အညီ ထမ်းဆောင်မည်ဖြစ်ကြောင်း ဖော်ပြထားပါသည်။

(ဆ) ၂၀၁၅ ခုနှစ် အတွက် ကုန်သွယ်လုပ်ငန်းခွန်နှင့် ဝင်ငွေခွန် ပေးဆောင်ထားသည့် အထောက်အထားများ ကို တင်ပြထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၇။ ပန်ဒါအထည်လုပ်ငန်း ကုမ္ပဏီလီမိတက် မှ စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစား စက်မှုလုပ်ငန်းရှိ (ယခင် အထည်အလိပ်လုပ်ငန်းပိုင်) အမှတ်(၂)အထည်စက်ရုံ(ပလိပ်)၊ မန္တလေး-တံတားဦး မီးရထားလမ်းနှင့် ပလိပ်-တံတားဦးကားလမ်းကြား၊ ပလိပ်မြို့၊ စဉ့်ကိုင်မြို့နယ်၊ မန္တလေးတိုင်း ဒေသကြီးရှိ မြေဧက ၆၄၁.၇၅ (၂၅၉၇၀၇၂.၄၀၅ စတုရန်းမီတာ) ကို ငှားရမ်း၍ ချည်၊

ပိတ်ညို၊ ပိတ်ချောနှင့် ဆေးဆိုးပန်းရိုက်ထည်များ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက် ခွင့်ပြုပါရန် သဘော တူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ



**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**

**မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့**

**မန္တလေးမြို့**

စာအမှတ်၊ ၂ / ၃ - ၆ / ၃၂ ဦး ၆ ( ၁၅၀ )

ရက် စွဲ ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ၂၂ ရက်

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့

M.343
23/2

အကြောင်းအရာ ။ **တိုင်းဒေသကြီးအစိုးရအဖွဲ့ သဘောထားပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၆.၁.၂၀၁၆) ရက်စွဲပါစာအမှတ်၊ ရက - ၃ / မ - ၁၃၂၃ / ၂၀၁၆( ၁၂၇)

၁။ စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း၊ အထည်အလိပ်လုပ်ငန်းပိုင်၊ အမှတ်(၂) အထည်စက်ရုံ(ပလိပ်)၊ မန္တလေးတံတားဦး မီးရထားလမ်းနှင့် ပလိပ်-တံတားဦးကားလမ်းကြား၊ ပလိပ်မြို့၊ စဉ့်ကိုင်မြို့နယ်ရှိ မြေဧရိယာ ၆၄၁.၇၅(၂၅၉၇၀၇၂.၄၀၅စတုရန်းမီတာ)အား ပန်ဒါအထည်လုပ်ငန်းကုမ္ပဏီ လီမိတက်မှ ငှားရမ်းပြီး ချည်၊ ပိတ်ညို၊ ပိတ်ချောနှင့် ဆေးဆိုးပန်းရိုက်ထည်များထုတ်လုပ် ရောင်းချခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ရင်းနှီးမြှုပ်နှံသူ ဒေါ်ရင်လီရင့် (ခ) ဒေါ်လီလီစမ်း (ဘ) ဦးရင်ချီရန် က ဆောင်ရွက်မည့်အပေါ် တိုင်းဒေသကြီး အစိုးရအဖွဲ့၏ သဘောထား စိစစ်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းလာပါသည်။

၂။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် မြေနေရာနှင့်ပတ်သက်၍ ကွင်းဆင်းစိစစ်စေခဲ့ရာ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည် -

(က) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် မြေနေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) မြို့ပြစီမံကိန်းကို ထိခိုက်ခြင်း မရှိပါကြောင်း ၊

(ခ ) မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူဖြစ်ပါကြောင်း ၊

(ဂ ) ဖော်ပြပါ မြေနေရာအား စက်ရုံအတွက် သုံးစွဲခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါကြောင်း ၊

(ဃ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်နေရာသည် စဉ့်ကိုင်မြို့နယ်၊ ပလိပ်ကျေးရွာအုပ်စု တဘက်ဆွဲကျေးရွာအုပ်စု၊ ဆီဆုံကျေးရွာအုပ်စု တို့အတွင်းရှိပြီး မူလက စက်မှုဝန်ကြီးဌာန ပိုင်ဆိုင်သည့် ဧရိယာ(၇၄၇.၇၀)ကေအနက် ပန်ဒါအထည်လုပ်ငန်း ကုမ္ပဏီလီမိတက်မှ ငှားရမ်းလုပ်ကိုင်မည့် ဧရိယာသည် ( ၆၄၁.၇၅ )ကေ ရှိခြင်းကြောင့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်း ဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ကြောင်း ၊

tt30

(ဂ) တိုင်းဒေသကြီးအစိုးရအဖွဲ့မှ **သီးခြားအကြံပြုရန်မရှိပါ ။**

၂။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ပန်ဒါအထည်လုပ်ငန်းကုမ္ပဏီလီမိတက်မှ ချည်၊ ပိတ်ညို၊ ပိတ်ချောနှင့် ဆေးဆိုးပန်းရိုက်ထည်များထုတ်လုပ် ရောင်းချခြင်း လုပ်ငန်းဆောင်ရွက်မည့်ကိစ္စနှင့်ပတ်သက်ပြီး (၁၈.၂.၂၀၁၆)ရက်နေ့တွင် ကျင်းပပြုလုပ်သည့် တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ်(၆/၂၀၁၆) ဆုံးဖြတ်ချက်အပိုဒ်(၈၁)အရ ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ရဲမြင့်
ဝန်ကြီးချုပ်

**မိတ္တူကို**

လှည့်လည်စာတွဲ ၊
ရုံးလက်ခံ ။

tt31




M.984
1/2

ရင်းနှီးမြှုပ်နှံမှု ဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်း အဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/MIC(OSS)/ECD/ ၀၁ ( ၃၁ / ၁၉ )
ရက် စွဲ ၊ ၂၀၁၆ခုနှစ် ဇန်နဝါရီလ ၂၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **ပန်ဒါအထည်ချုပ်လုပ်ငန်းကုမ္ပဏီလီမိတက်မှ B.O.T စနစ်ဖြင့် ချည်၊ ပိတ်ညို၊ ပိတ်ချောနှင့်ဆေးဆိုးပန်းရိုက်ထည်များ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းကို လုပ်ကိုင်ဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၆-၁-၂၀၁၆ ရက်စွဲပါစာအမှတ်၊ ရက-၃/ မ-၁၃၂၃/ ၂၀၁၆(၁၂၈)

၁။ ပန်ဒါအထည်ချုပ်လုပ်ငန်းကုမ္ပဏီလီမိတက်မှ စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်းရှိ အထည်အလိပ်လုပ်ငန်းပိုင်၊ အမှတ်(၂)အထည်စက်ရုံ(ပလိပ်)၊ မန္တလေး-တံတားဦးမီးရထားလမ်းနှင့် ပလိပ်-တံတားဦးကားလမ်းကြားရှိ ပလိပ်မြို့၊ စဉ့်ကိုင်မြို့နယ်၊ မန္တလေးတိုင်းဒေသကြီးရှိမြေဧက ၆၄၁.၇၅(၂၅၉၇၀၇၂.၄၀၅ စတုရန်းမီတာ)ကိုငှားရမ်း၍ ချည်၊ ပိတ်ညို၊ ပိတ်ချောနှင့်ဆေးဆိုးပန်းရိုက်ထည်များ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ စီစစ်ပြီးသဘောထားမှတ်ချက်ပြန်ကြားပေးပါရန်ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ ပူးတွဲပေးပို့လာသော အဆိုပြုလွှာတွင်ရင်းနှီးမြှုပ်နှံမှုကာလမှာ ကနဦးနှစ်(၅၀)နှင့်(၁၀)နှစ်သက်တမ်းတိုး(၂)ကြိမ်ဖြစ်ကြောင်း ဝန်ထမ်းများသက်သာချောင်ချိရေးနှင့် သာယာပျော်ရွှင်ရေးအစီအမံများ၊ မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်များကိုထားရှိဆောင် ရွက်သွားမည်ဖြစ်ကြောင်း၊ လုပ်ငန်းမှရရှိလာမည့်အသားတင်အမြတ်ငွေ(၂%)အား လူမှုရေးအကျိုးပြုလုပ်ငန်းများ ( Corporate Social Responsibility -- CSR ) လုပ်ငန်းများတွင် အသုံးပြုသွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်ပတ်သက်၍ လုပ်ငန်းခွင်မှ

ထွက်ရှိလာသောအမှိုက်မျိုးစုံအား အမျိုးအစားအလိုက်ခွဲခြား၍စွန့်ပစ်စေပြီး မြို့နယ်စည်ပင်သာယာရေးကော်မတီ၏စီမံမှုဖြင့်စနစ်တကျစွန့်ပစ်သွားမည်ဖြစ်ကြောင်း၊ စွန့်ပစ်ရေများအား ရေဆိုးသန့်စင်မှု( Waste Water Treament )ပြုလုပ်ပြီး ရေများအား စက်ရုံစိုက်ခင်းများသို့ ပေးပို့၍ စိုက်ပျိုးရေအဖြစ် အသုံးပြုသွားမည်ဖြစ်ကြောင်းဖော်ပြပါရှိပါသည်။

၃။ ပန်ဒါအထည်ချုပ်လုပ်ငန်းကုမ္ပဏီလီမိတက်မှ ချည်၊ ပိတ်ညို၊ ပိတ်ချောနှင့်ဆေးဆိုးပန်းရိုက်ထည်များ ထုတ်လုပ်ဆောင်ရွက်ခြင်းကြောင့်လုပ်ငန်းတွင်အဓိကအသုံးပြုမည့် Ink Plasticsol , Ink Silicon, Adhesive Sheet စသည့် ကုန်ကြမ်းပစ္စည်းများမှထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်းများမှ ထွက်ရှိလာမည့်စွန့်ပစ်ပစ္စည်း၊ ဖြတ်စ/ညှပ်စများနှင့်စွန့်ပစ်အရည်(ရေဆိုးများ)အား ပတ်ဝန်းကျင် မြစ်/ ချောင်း/ အင်း/ အိုင်များအတွင်းသို့တိုက်ရိုက်စွန့်ပစ်ပါက ပတ်ဝန်းကျင်မြေထုနှင့်ရေထုညစ်ညမ်းနိုင်ခြင်း၊ လုပ်ငန်းအဆင့်တိုင်းတွင်စက်များအသုံးပြုဆောင်ရွက်ရမည်ဖြစ်သဖြင့်အသံဆူညံခြင်း၊ ထွက်ရှိလာသောဆိုးဆေးအနံ့ဆိုးများကြောင့်စက်ရုံဝန်ထမ်းများနှင့် ပတ်ဝန်းကျင်ရှိပြည်သူများ၏ကျန်းမာရေးကိုထိခိုက်နိုင်ခြင်းစသောပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုပြဿနာများ ဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ ပန်ဒါအထည်ချုပ်လုပ်ငန်းကုမ္ပဏီလီမိတက်မှ ချည်၊ ပိတ်ညို၊ ပိတ်ချောနှင့်ဆေးဆိုးပန်းရိုက်ထည်များ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား လုပ်ကိုင်ဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကိုလျော့နည်းစေရန်အတွက် လုပ်ငန်းစီမံချက်များချမှတ်ခြင်း၊ ထုတ်လုပ်ခြင်းလုပ်ငန်းအဆင့်ဆင့်တို့အတွက် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် လုပ်ငန်းစနစ်များ၊ စက်ပစ္စည်းများကို အသုံးပြုခြင်းနှင့် အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးအကျိုးပြုလုပ်ငန်းများအတွက် တာဝန်ယူဆောင်ရွက်မှု (Corporate Social Responsibility – CSR )အတွက် နှစ်စဉ်အမြတ်ငွေ၏(၂%)အားအသုံးပြုသွားရန်အပါအဝင် ကတိကဝတ်များအားလိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ခ) လုပ်ငန်းများဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမရှိစေရေး(သို့

မဟုတ်)ထိခိုက်မှုအနည်းဆုံးဖြစ်စေရန် **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း**(Environmental Impact Assessment – EIA)ကို ဆောင်ရွက်ပြီးအစီရင်ခံစာ ရေးသာ ပြုစုတင်ပြရန်။

(ဂ) အထက်ပါလေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးဆိုင်ရာထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ် စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်/ အခိုးအငွေ့စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြည့်လေ့လာမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်** ( Environmental Manangement Plan – EMP )ကို ရေးဆွဲတင်ပြ၍ စီမံချက်ပါအတိုင်းအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များအတိုင်းလိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(င) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများရယူဆောင်ရွက်ရန်။

(ဇော်မိုး)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ဒုတိယဝန်ကြီး(ပတ်ဝန်းကျင်)
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ



M.207
3/2

DPG.361
2.2.2016

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၂၁-စမ(၂) ၂၀၁၅-၂၀၁၆ (၃၈၁၈)
ရက် စွဲ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ၁ ရက်

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး**

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၆.၁.၂၀၁၆ ရက်စွဲပါ စာအမှတ်၊ ရက-၃/မ-၁၃၂၃/၂၀၁၆ (၁၂၉)

၁။ ပန်ဒါအထည်လုပ်ငန်း ကုမ္ပဏီလီမိတက်မှ နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်းရှိ အထည်အလိပ်လုပ်ငန်းပိုင် အမှတ်(၂)အထည်စက်ရုံ (ပလိပ်)၊ မန္တလေးတံတားဦးမီးရထားလမ်းနှင့် ပလိပ်-တံတားဦးကားလမ်းကြား၊ ပလိပ်မြို့၊ စဉ့်ကိုင်မြို့နယ်၊ မန္တလေးတိုင်းဒေသကြီးတွင် ချည်၊ ပိတ်ညို၊ ပိတ်ချောနှင့် ဆေးဆိုးပန်းရိုက်ထည်များ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ချည်၊ ပိတ်ညို၊ ပိတ်ချောနှင့် ဆေးဆိုးပန်းရိုက်ထည်များ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည် ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

(င) ကုန်ထုတ်လုပ်ငန်း လုပ်ကိုင်ရာတွင် ဓါတုပစ္စည်းနှင့် ဆက်စပ်ပစ္စည်းများအန္တရာယ်မှ တားဆီးကာကွယ်ရေးဥပဒေနှင့်အညီ လိုက်နာဆောင်ရွက်ရန် လိုအပ်ပါသည်။

(စ) ကုန်ထုတ်လုပ်မှုနှင့် စက်အင်အား/ဝန်ထမ်းအင်အား ဆီလျော်မှု ရှိပါသည်။

(ဆ) ကုန်ကြမ်းသုံးစွဲမှုနှုန်း တင်ပြချက်တွင် ပိတ်ညှိုရက်လုပ်ရန်အတွက် ကုန်ကြမ်းချည်သုံးစွဲမှုနှုန်းနှင့် ဖြတ်စအလေအလွင့်ရာခိုင်နှုန်း အနည်းငယ်များနေသဖြင့် လျှော့နည်းပြင်ဆင်တင်ပြရန် လိုအပ်ပါသည်။

(ဇ) နှစ်အလိုက် ကုန်ကြမ်းလိုအပ်ချက်အား ပြင်ဆင်တင်ပြရန် လိုအပ်ပါသည်။

(ဈ) ထုတ်ကုန်ပစ္စည်းများအား ပြည်တွင်း ၈၀ %နှင့် ပြည်ပသို့ ၂၀% ရောင်းချမည်ဖြစ်ရာ ဆေးဆိုးပိတ်/အဖြူချွတ်ပိတ်၏ ပြည်တွင်းရောင်းဈေးနှုန်းမှာ ပြည်ပရောင်းဈေးနှုန်းထက် အနည်းငယ်များနေသဖြင့် လျှော့၍ ပြင်ဆင်တင်ပြရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ ပန်ဒါအထည်လုပ်ငန်း ကုမ္ပဏီလီမိတက်မှ ချည်၊ ပိတ်ညှို၊ ပိတ်ချောနှင့် ဆေးဆိုးပန်းရိုက်ထည်များ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် အထက်ပါလိုအပ်ချက်အား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့်ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

(signature) ၁.၂.၁၆

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(လှမိုး၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးဦးစီးဌာန

အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ

ပန်ဒါ အထည်လုပ်ငန်း ကုမ္ပဏီ လီမိတက်

**PANDA TEXTILE COMPANY LIMITED**

မှ

စက်မှုဝန်ကြီးဌာန၊ အထည်အလိပ်လုပ်ငန်းပိုင်

မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်ခရိုင်၊ စဉ့်ကိုင်မြို့နယ်၊

မန္တလေး-တံတားဦး မီးရထားလမ်း နှင့် ပလိပ်-တံတားဦးကားလမ်းမ

အကြားတွင် တည်ရှိသော အမှတ်(၂)အထည်စက်ရုံ(ပလိပ်)၏

မြေဧက(၆၄၁.၇၅)အား ငှားရမ်း၍ ချည်၊ ပိတ်ညို၊ ပိတ်ချော နှင့်

ဆေးဆိုးပန်းရိုက်ထည်များ ထုတ်လုပ်၊ ရောင်းချမည့်

"အဆိုပြုလွှာ တင်ပြချက်"





# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၂၃-စမ(၂)၂၀၁၅-၂၀၁၆(၃၆၂၆)
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဇန်နဝါရီလ ၁၈ ရက်

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး**

အကြောင်းအရာ။ **အမှတ်(၂)အထည်စက်ရုံ(ပလိပ်)ကို နှစ်ရှည်ငှားရမ်းခွင့်ပြုရေးကိစ္စ**

၁။ စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်းရှိ အမှတ်(၂)အထည်စက်ရုံ (ပလိပ်)ကို ၂၈.၃.၂၀၁၃ ရက်နေ့တွင်ကျင်းပပြုလုပ်သော ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ်(၁၁/၂၀၁၃)၏ခွင့်ပြုချက်အရ Panda Textile Co., Ltd. သို့ နှစ်(၃၀)ငှားရမ်းဆောင် ရွက်ခဲ့ပါသည်။

၂။ Panda Textile Co., Ltd. မှ လုပ်ငန်းများတိုးချဲ့ဆောင်ရွက်လိုပါသဖြင့် အမှတ်(၂) အထည်စက်ရုံ(ပလိပ်)အား မူလငှားရမ်းကာလနှစ်(၃၀)**အစား** (၅၀+ ၁၀+ ၁၀)နှစ်ဖြင့် နှစ်ရှည် ငှားရမ်းဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာပါသည်။

၃။ သို့ပါ၍ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်းရှိ အမှတ်(၂)အထည်စက်ရုံ(ပလိပ်)အား Panda Textile Co., Ltd. သို့ မူလငှားရမ်းကာလအစား (၅၀+ ၁၀+ ၁၀)နှစ်ဖြင့် နှစ်ရှည်ငှားရမ်း ဆောင်ရွက်ခွင့်ပြုပါရန် ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်၊ စာချုပ်(မူကြမ်း)၊ အဆိုပြုလွှာများနှင့်တကွ အချက်အလက် အထောက်အထားများပူးတွဲလျက် ထောက်ခံပေးပို့အပ် ပါသည်။

၁၈.၁.၁၆

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(လှမိုး၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို

အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း

LIVE
Environmental Assessment Group
No. (72), Boho street, San Chaung Township, Yangon
Ph: +951 519072, +959 5014535, +959 8303497

To whom it may concern

Date: 23rd February 2016

**Subject:-** Addressing the environmental assessment status

**Reference:-** MIC letter no: YaKa- 3/Ma-1323/2016 ( 177 )

I am very much admire to inform the authorities concern that our group had already received an offerings from Panda Group of Companies to conduct Environmental Impact Assessment and Environmental Management Plan at Panda Textile (Paleik), Singaing Township, Mandalay Region. As per directed from Myanmar Investment Commission preliminary measures require to convey such said assessments are being commenced since 19th February 2016.

With best regards

Dr. Than Htut
President
LIVE Environmental Assessment5 Group



# PANDA TEXTILE COMPANY LIMITED

*Office*
No.18 (A), Rm 3-4, 1st Floor
Boyarnyunt St., Yawmingyi Ward,
Dagon Tsp, Yangon, Myanmar.
Ph : (95-1) 248247, 389669, 252127, 377269
Fax: (95-1) 254699

*Factory* - No.8, 13-14,Kyan Sit Thar Street, Zone(3), Hlaing Thar Yar T/S, Yangon, Myanmar. Ph:(95-1) 685037, 685038

စာအမှတ်။ PDA(CHMO)/PLG/2016( ၀၀၆ )
ရက်စွဲ။ ၂၀၁၆ခုနှစ်၊ ဖေဖော်ဝါရီလ ( ၂၂ )ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ ။ ။ **Panda Textile Co.,Ltd. ၏ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အပေါ် စက်မှုဝန်ကြီးဌာန၏ သဘောထားမှတ်ချက်များအား လိုက်နာဆောင်ရွက်ပါမည့်အကြောင်း တင်ပြအစီရင်ခံခြင်းကိစ္စ**

ရည်ညွှန်းချက် ။ ။ (၁) စက်မှုဝန်ကြီးဌာန၏ (၁.၂.၂၀၁၆)ရက်စွဲပါစာအမှတ်၊ ၂၁-စမ(၂) ၂၀၁၅-၂၀၁၆ (၃၈၁၈)
(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၃.၂.၂၀၁၆)ရက်စွဲပါစာအမှတ်၊ရကာ-၃/ မ-၁၃၂၃/ ၂၀၁၆(၂၀၃)

၁။ အထက်ရည်ညွှန်းပါစာများအရ ကျွန်မတို့ Panda Textile Co., Ltd. အနေဖြင့် စက်မှုဝန်ကြီးဌာန၏ သဘောထားမှတ်ချက်များနှင့်အညီ အောက်ပါအတိုင်း လိုက်နာဆောင်ရွက်သွားပါမည်ဖြစ်ကြောင်း တင်ပြအပ်ပါသည် -

(က) လျှပ်စစ်သွယ်တန်းအသုံးပြုမှုနှင့်ပတ်သက်၍ ပလိပ်ချည်မျှင်အထည်နှင့် အချောကိုင်စက်ရုံသည် ၁၉၇၃ ခုနှစ်ကတည်းက စတင်လည်ပတ်ခဲ့ခြင်းဖြစ်ပြီး၊ လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၏ လျှပ်စစ်ဥပဒေနှင့်အညီ လျှပ်စစ်လိုင်းသွယ်တန်းမှုများပြုလုပ်ထား၍ နှစ်စဉ်သက်ဆိုင်ရာမှ စစ်ဆေးခြင်းကို ခံယူဆောင်ရွက်လျက်ရှိပါသည်။

(ခ) မီးဘေးအန္တရာယ် ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပေါ်စေရေးတို့အတွက် အောက်ဖော်ပြပါအတိုင်း စနစ်တကျ ဆောင်ရွက်ထားရှိပါသည် -

(ကက) မီးသတ်တပ်ဖွဲ့စုဖွဲ့ထားရှိခြင်း။
(ခခ) မီးသတ်အခြေခံသင်တန်းများပေးခြင်း။
(ဂဂ) မီးသတ်ကားနှင့် ရေကားများထားရှိခြင်း။
(ဃဃ) မီးချိတ်၊ မီးကပ်၊ သဲပုံး၊ ရေပုံးများပါဝင်သည့် Fire Point (၉)ခု နှင့် မီးသတ်ဆေးဘူး (၂၁၄)ဘူးကိုထားရှိခြင်း။
(ငင) မြေတွင်းရေပိုက်(Hydrant)များအား စက်ရုံအတွင်း၌ (၂၀)ခုနှင့် ရပ်ကွက်(၈) ရပ်ကွက်တွင် (၈)ခု ထားရှိခြင်း။
(စစ) နံရံကပ်မီးသတ်ပိုက်များအား ချည်တည်စက်ရုံတွင် (၁၈)ခုနှင့် အချောကိုင်စက်ရုံတွင် (၇) ခုစီအသီးသီးထားရှိခြင်း။



PANDA TEXTILE
COMPANY LIMITED

*Office*
No.18 (A), Rm 3-4, 1st Floor
Boyarnyunt St., Yawmingyi Ward.
Dagon Tsp, Yangon, Myanmar.
Ph : (95-1) 248247, 389669, 252127, 377269
Fax: (95-1) 254699

Factory - No.8, 13-14 Kyan Sit Thar Street, Zone(3), Hlaing Thar Yar T/S, Yangon, Myanmar. Ph:(95-1) 685037, 685038

(ဆ၉) ငါးဖန်စက်ရုံနှင့်ပါသိုလှောင်ရုံတွင် ၁၉၆၈ ခုနှစ်မှစ၍ ကောင်းကင်ရေမှုန်ဖျန်း ပိုက်ခေါင်း (Sprinkles Pump) များအားထားရှိခြင်း။

(၉၈) စဉ်ကိုင်မြို့နယ် မီးသတ်တပ်ဖွဲ့အားခေါ်ယူ၍ ဝန်ထမ်းများဖြင့် အစမ်းသဘော အတတ်တိုက်လေ့ကျင့်ထားခြင်း၊(Simulation Exercise) နှင့် လိုအပ်သည့် လေ့ကျင့်မှုများကို ပြုလုပ်ခြင်း။

(ဂ) ကုမ္ပဏီအနေဖြင့် ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုလုပ်ငန်းလိုင်စင် မှတ်ပုံတင်ကို ပြုလုပ်ထားပြီး ဖြစ်ပါသည်။

(ဃ) ကုမ္ပဏီအနေဖြင့် ကုန်ထုတ်လုပ်ငန်းလုပ်ကိုင်ရာတွင် ဓါတုပစ္စည်းနှင့် ဆက်စပ်ပစ္စည်းများ အန္တရာယ်မှ ကာကွယ်ရေးဥပဒေနှင့်အညီလည်း လိုက်နာဆောင်ရွက်လျက်ရှိပါသည်။

(င) ကုန်ကြမ်းသုံးစွဲမှုနှုန်း တင်ပြချက်တွင် ပိတ်ညှိရက်လုပ်ရန်အတွက် ကုန်ကြမ်းချည်(၁/၃၀၊ ၁/၃၂) သုံးစွဲမှုနှင့် ဖြတ်စအလေအလွင့် တွက်နှုန်းအား စက်မှုနှုန်းထားအတိုင်း ပြန်လည်ပြင်ဆင်ပြီး တွက်ချက်၍ တင်ပြထားပါသည်။(Annex - 6 )

(စ) နှစ်အလိုက် ကုန်ကြမ်းလိုအပ်ချက်များအား ပြန်လည်ပြင်ဆင်ပြီးတွက်ချက်၍ တင်ပြထားပါသည်။ (Annex – 10-1, 10-2)

(ဆ) ထုတ်ကုန်ပစ္စည်းများအား ပြည်တွင်း ၈၀% နှင့် ပြည်ပသို့ ၂၀% ရောင်းချခြင်းအတွက် ဆေးဆိုးပိတ်/အဖြူရှုတ်ပိတ်၏ ပြည်တွင်းရောင်းဈေးနှုန်းကို စက်မှုလမ်းညွှန်အတိုင်း လျှော့ချ၍ ပြန်လည်ပြင်ဆင်ပြီး တွက်ချက် တင်ပြထားပါသည်။ (Annex – 11-1, 11-2, 12-1, 12-2 )

၂။ သို့ဖြစ်ပါ၍ ကျွန်ုပ်တို့ Panda Textile Co., Ltd. အနေဖြင့် စက်မှုဝန်ကြီးဌာန၏ သဘောထားမှတ်ချက်များအား ပြုပြင်ရန်ရှိသည်များကို အမြန်ဆုံးပြင်ဆင်ပြီးကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

ဒေါ်ရင်လီရင့် (ခ) လီလီစမ်း
မန်နေဂျင်းဒါရိုက်တာ
Panda Textile Co., Ltd.



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

# စက်မှုဝန်ကြီးဌာန

စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန

# ပုဂ္ဂလိကစက်မှုလုပ်ငန်း မှတ်ပုံတင်လက်မှတ်

စက်မှုမှတ်ပုံတင်အမှတ် ၇၈/ကြီး/၁၀၀၂ ရက်စွဲ ၁၀-၁၂-၂၀၀၀

လုပ်ငန်းအရွယ်အစား အကြီးစား တိုင်းဒေသကြီး/ပြည်နယ် ရန်ကုန်

အောက်ပါလုပ်ငန်းသည် ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေ ပုဒ်မ ၇ ပုဒ်မခွဲ ( ဂ ) အရ မှတ်ပုံတင်ပြီးဖြစ်ပါသည်။

၁။ လုပ်ငန်းအမည် P DA TEXTILE CO.,LTD

၂။ လုပ်ငန်းအမျိုးအမည် စက်ရက်ကန်း နှင့် ဆေးဆိုး ပန်းရိုက်လုပ်ငန်း

၃။ အဓိကကုန်ချောပစ္စည်းအမျိုးအမည် ပိတ်ညို/ကြမ်း၊ အဖြူချွတ်ပြီး ပိတ်၊ ဆေးဆိုးပြီး ပိတ်စ၊ ဆေးဆိုး ပန်းရိုက် ပိတ်စ

၄။ တည်နေရာလိပ်စာ ၈/၁၃၊ ကျန်စစ်သားလမ်း၊ စက်မှုဇုန် (၃) လှိုင်သာယာ

၅။ ပိုင်ဆိုင်မှုအမျိုးအစား ကုမ္ပဏီ

၆။ လုပ်ငန်းရှင်အမည် ဒေါ်ရင်လီရင် ( M.D )

၇။ ကိုင်ဆောင်သည့်မှတ်ပုံတင်အမှတ် ၁၃/မဆတ (ပြု) ၀၀၀၀၅၂

၈။ ရင်းနှီးမြှုပ်နှံမှုတန်ဖိုး (ကျပ်) 139000 ~~1127[illegible] USD~~ တည်ထောင်သည့်ခုနှစ် ၂၀၀၀

၉။ အသုံးပြုသည့်အားအမျိုးအစား လျှပ်စစ် မြင်းကောင်ရေ ၂၆၀

၁၀။ အလုပ်သမားဦးရေ ၃၈၁

၁၁။ မှတ်ပုံတင်သက်တမ်းကုန်ဆုံးသည့်နေ့ရက် ၃၁-၁၂-၂၀၀၁





၁၃/၁/၂၀၁၅

ညွှန်ကြားရေးမှူးချုပ်

ခိုင်ထွန်း - တိုင်းဒေသကြီးဦးစီးဌာနမှူး

သက်တမ်းတိုးရေးသွင်းရန်အတွက်ထုတ်ပေးခြင်း၊

## လုပ်ငန်းရှင်များလိုက်နာရန် စည်းကမ်းချက်များ

၁။ ဤမှတ်ပုံတင်လက်မှတ်ကို အများမြင်သာသည့်နေရာတွင် ချိတ်ဆွဲထားရမည်။
၂။ ဤမှတ်ပုံတင်လက်မှတ်ကို မသက်ဆိုင်သူအား လွှဲအပ်ခြင်း သို့မဟုတ် လွှဲပြောင်းပေးခြင်းမပြုရ။
၃။ ဤမှတ်ပုံတင်လက်မှတ်ပါ အချက်အလက်များကို ပြင်ဆင်ခြင်း သို့မဟုတ် ဖြည့်စွက်ခြင်းမပြုလုပ်ရ။
၄။ ဤမှတ်ပုံတင်လက်မှတ် ပျောက်ဆုံးလျှင် မှတ်ပုံတင်လက်မှတ်မိတ္တူကို ထုတ်ပေးရန် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ် ဦးစီးဌာနမှူးထံ ခိုင်လုံသောအထောက်အထားနှင့်အတူ လျှောက်ထားရမည်။
၅။ မှတ်ပုံတင်လက်မှတ်ပျက်စီးလျှင် သို့မဟုတ် မထင်မရှားဖြစ်လျှင်၊ သို့မဟုတ် မှတ်ပုံတင်လက်မှတ်ပါ အချက်အလက်များ ပြောင်းလဲရန်လိုအပ်လျှင် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဦးစီးဌာနမှူးထံ မှတ်ပုံတင်လက်မှတ်နှင့် ပူးတွဲတင်ပြလျှောက်ထားရမည်။
၆။ ဤမှတ်ပုံတင်လက်မှတ်ကို စက်မှုလုပ်ငန်းနှင့်စပ်လျဉ်းသည့်ကိစ္စမှအပ အခြားသည့်ကိစ္စတွင်မျှ အသုံးမပြုရ။
၇။ မှတ်ပုံတင်သက်တမ်းမကုန်ဆုံးမီ သက်တမ်းတိုးမြှင့်ပေးရန် လျှောက်ထားရာတွင် ဤမှတ်ပုံတင် လက်မှတ်ကို ပူးတွဲတင်ပြရမည်။
၈။ သက်တမ်းကုန်ဆုံးပြီး ရက်ပေါင်း (၆၀) အတွင်း သက်တမ်းတိုးမြှင့်လျှောက်ထားပါက သတ်မှတ်သည့် ဒဏ်ကြေးကို ပေးဆောင်ရမည်။
၉။ သက်တမ်းတိုးမြှင့်ရန် လျှောက်ထားခြင်းမရှိပါက မှတ်ပုံတင်ပျက်ပြယ်ပြီးဖြစ်သည်။

### မှတ်ပုံတင်သက်တမ်းတိုးမြှင့်ခြင်း

| စဉ် | ချလန်အမှတ်/ရက်စွဲ | မှတ်ပုံတင်သက်တမ်း ကုန်ဆုံးမည့်နေ့ရက် | ခွင့်ပြုသူလက်မှတ် |
|---|---|---|---|
| ၁၄ | ၄၆၁/၂၃.၁၂.၁၄ | ၃၁.၁၂.၁၅ တိုင်းဒေသကြီးဦးစီးဌာနမှူး | (signature) |
| ၁၅ | ၁၁၅/၁၇.၁၂.၁၅ | ၃၁.၁၂.၁၆ တိုင်းဒေသကြီးဦးစီးဌာနမှူး | (signature) |
| | | | |
| | | | |
| | | | |
| | | | |
| | | | |
| | | | |
| | | | |
| | | | |
| | | | |
| | | | |
| | | | |
| | | | |
| | | | |
| | | | |

# "ပန်ဒါ အထည်လုပ်ငန်း ကုမ္ပဏီ လီမိတက်"

## ချည်၊ ပိတ်ညို၊ ပိတ်ချောနှင့် ဆေးဆိုးပန်းရိုက်ထည်များ ထုတ်လုပ်ခြင်း လုပ်ငန်းအား ခွင့်ပြုပါရန် အဆိုပြုလွှာ တင်ပြခြင်း

အညွှန်း

| | | |
|---|---|---|
| ၁။ | ရင်းနှီးမြှုပ်နှံမှု ဆောင်ရွက်မည့်လုပ်ငန်းအား ခွင့်ပြုပေးပါရန် အဆိုပြု တင်ပြစာ | |
| ၂။ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေအရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ လျှောက်ထားစာ | |
| ၃။ | မနသ ပုံစံ(၁) | |
| ၄။ | ကတိဝန်ခံချက်များ | |
| ၅။ | ဝန်ထမ်းသက်သာ ချောင်ချိရေး အစီအစဉ် | |
| ၆။ | မီးဘေးကာကွယ်မှု အစီအစဉ် | |
| ၇။ | သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအစဉ် | |
| ၈။ | လူမှုရေးအကျိုးပြုလုပ်ငန်းများအတွက် လျာထားသုံးစွဲမည့် အစီအစဉ် | |
| ၉။ | လက်ရှိအဆောက်အဦပုံများ နှင့် ထုတ်လုပ်မည့်ပစ္စည်းဓါတ်ပုံများ | |
| ၁၀။ | အစုရှယ်ယာရှင်များနှင့် ဒါရိုက်တာများစာရင်း | နောက်ဆက်တွဲ – (၁) |
| ၁၁။ | ဆောင်ရွက်မည့်လုပ်ငန်းများအတွက် ရင်းနှီးမြှုပ်နှံမှုစာရင်းများ အစီအစဉ် | နောက်ဆက်တွဲ – (၂) မှ<br>နောက်ဆက်တွဲ – (၁၅) |
| ၁၂။ | စက်မှုဝန်ကြီးဌာန၊ အထည်အလိပ်လုပ်ငန်းပိုင် အမှတ်(၂)အထည်စက်ရုံ(ပလိပ်) အား ငှားရမ်းခြင်း သဘောတူစာချုပ် | နောက်ဆက်တွဲ – (၁၆) |
| ၁၃။ | ဘဏ္ဍာရေးအချက်အလက်များနှင့် အထောက်အထား စာရွက်စာတမ်းများ | နောက်ဆက်တွဲ – (၁၇) |
| ၁၄။ | ကုမ္ပဏီဆိုင်ရာ အထောက်အထား စာရွက်စာတမ်းများ | နောက်ဆက်တွဲ – (၁၈) |



# PANDA TEXTILE COMPANY LIMITED

*Office*
No.18 (A), Rm 3-4, 1st Floor
Boyarnyunt St., Yawmingyi Ward,
Dagon Tsp, Yangon, Myanmar.
Ph : (95-1) 248247, 389669, 252127, 377269
Fax: (95-1) 254699

*Factory* - No.8, 13-14,Kyan Sit Thar Street, Zone(3), Hlaing Thar Yar T/S, Yangon, Myanmar. Ph:(95-1) 685037, 685038

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့။

ရက်စွဲ။ ။၂၀၁၆ခုနှစ်၊ ဇန်နဝါရီလ (၂၆)ရက်။

အကြောင်းအရာ။ ။ ချည်၊ ပိတ်ညို၊ ပိတ်ချောနှင့် ဆေးဆိုးပန်းရိုက်ထည်များ ထုတ်လုပ်ခြင်းလုပ်ငန်းနှင့်စပ်လျဉ်း၍ အဆိုပြုလွှာ ပေးပို့ခြင်း။

ကျွန်မတို့၏ ပန်ဒါ အထည်လုပ်ငန်း ကုမ္ပဏီ လီမိတက် (Panda Textile Co., Ltd.)သည် စက်မှုဝန်ကြီးဌာန၊ အထည်အလိပ်လုပ်ငန်းပိုင် မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်ခရိုင်၊ စဉ့်ကိုင်မြို့နယ်၊ မန္တလေး-တံတားဦး မီးရထားလမ်းနှင့် ပလိပ်-တံတားဦး ကားလမ်းကြားတွင် တည်ရှိသော အမှတ်(၂) အထည်စက်ရုံ(ပလိပ်)ရှိ စက်ရုံနှင့်မြေ (၆၄၁.၇၅)ဧက ကို ကနဦး(၅၀)နှစ်နှင့် နောက်ထပ် (၁၀)နှစ်(၂)ကြိမ် ငှားရမ်းပြီး အဆိုပါမြေ (၆၄၁.၇၅)ဧက ပေါ်တွင် ချည်၊ ပိတ်ညို၊ ပိတ်ချော နှင့်ဆေးဆိုးပန်းရိုက်ထည်များ ထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်မည် ဖြစ်ပါသည်၊ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် လုပ်ငန်းဆောင်ရွက်မည် ဖြစ်ပါသည်။

သို့ပါ၍ အဆိုပြုလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန်နှင့် စိစစ်ပေးနိုင်ပါရန်အတွက် အဆိုပြုလွှာ ( ) စုံကို ပေးပို့အပ်ပါသည်။

လေးစားစွာဖြင့်

ဒေါ်ရင်လီရင့် (ခ) လီလီစမ်း
မန်နေဂျင်းဒါရိုက်တာ
Panda Textile Co., Ltd.



# PANDA TEXTILE
## COMPANY LIMITED

*Office*
No.18 (A), Rm 3-4, 1st Floor
Boyarnyunt St., Yawmingyi Ward,
Dagon Tsp, Yangon, Myanmar.
Ph : (95-1) 248247, 389669, 252127, 377269
Fax: (95-1) 254699

*Factory* - No.8, 13-14,Kyan Sit Thar Street, Zone(3), Hlaing Thar Yar T/S, Yangon, Myanmar. Ph:(95-1) 685037, 685038

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

ရက်စွဲ။ ။၂၀၁၆ခုနှစ်၊ ဇန်နဝါရီလ ( ၂၆ )ရက်။

အကြောင်းအရာ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအခန်း(၁၁)၊ ပုဒ်မ(၂၀)အရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များအား ခံစားခွင့်ပြုပါရန် လျှောက်ထားခြင်း။

ကျွန်မတို့၏ ပန်ဒါ အထည်လုပ်ငန်း ကုမ္ပဏီ လီမိတက် (Panda Textile Co., Ltd.)သည် စက်မှုဝန်ကြီးဌာန အထည်အလိပ်လုပ်ငန်းပိုင် မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်ခရိုင်၊ စဉ့်ကိုင်မြို့နယ်၊ မန္တလေး-တံတားဦး မီးရထားလမ်းနှင့် ပလိပ်တံတားဦး ကားလမ်းကြားတွင် တည်ရှိသော အမှတ်(၂)၊ အထည်စက်ရုံ (ပလိပ်)ရှိ စက်ရုံနှင့်မြေ (၆၄၁. ၇၅)ကို ကနဦး(၅၀)နှစ်နှင့် နောက်ထပ်(၁၀)နှစ် (၂)ကြိမ် ငှားရမ်းပြီး အဆိုပါမြေ (၆၄၁. ၇၅)ဧက ပေါ်တွင် ချည်၊ ပိတ်ညို၊ ပိတ်ချောနှင့် ဆေးဆိုးပန်းရိုက်ထည်များ ထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်မည် ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် လုပ်ငန်းဆောင်ရွက်မည် ဖြစ်ပါသည်။

ကျွန်မတို့၏ ကုမ္ပဏီသည် အဆိုပြုလုပ်ငန်းအား အမေရိကန်ဒေါ်လာ(၀. ၁၇၃)သန်း အပါအဝင် ကျပ်သန်း(၁၇၃၀. ၀၀)ကို ရင်းနှီးမြှုပ်နှံမည်ဖြစ်ပြီး ယင်းတွင် ငွေသားကျပ် (၉၅၉. ၇၀)သန်း၊ စက်ပစ္စည်းနှင့် လုပ်ငန်းသုံးပစ္စည်း အမေရိကန်ဒေါ်လာ(၀. ၁၇၃)သန်းကို ရင်းနှီးမြှုပ်နှံမည် ဖြစ်ပါသည်။

ကျွန်မတို့၏ ကုမ္ပဏီသည် ကုန်ထုတ်လုပ်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် သဘာဝပတ်ဝန်းကျင် ထိခိုက်မှုမရှိစေရေးနှင့် ဒေသခံပြည်သူလူထု၏ လူမှုရေး၊ ကျန်းမာရေးနှင့် အခြားထိခိုက်နစ်နာမှုများ မရှိစေရေး အတွက် အာဏာပိုင်အဖွဲ့အစည်းများ၏ လမ်းညွှန်မှုနှင့်အတူ သဘာဝပတ်ဝန်းကျင်ထိခိုက်မှု မဖြစ်စေရန် ဆောင်ရွက်ထားရှိမှုအားလည်း ပူးတွဲတင်ပြအပ်ပါသည်။

ချည်၊ ပိတ်ညို၊ ပိတ်ချောနှင့် ဆေးဆိုးပန်းရိုက်ထည်များ ထုတ်လုပ်ခြင်းလုပ်ငန်းမှ ထွက်ကုန်များအား ပြည်တွင်းတွင် (၈၀%)ဖြန့်ဖြူး၊ ရောင်းချ၍ ပြည်ပသို့ (၂၀%) တင်ပို့၊ ရောင်းချသွားမည် ဖြစ်ပါသည်။

သို့ဖြစ်ပါ၍ နိုင်ငံသားပိုင်ကျွန်မတို့ ကုမ္ပဏီ၏ရှင်သန်လည်ပတ်နိုင်ရေး၊ ဝန်ထမ်းများလုံလောက်သည့် အခကြေးငွေဖြင့် လျာထားသည့် ဝန်ထမ်းအင်အားပြည့်ခန့်ထားနိုင်ရေး၊ နိုင်ငံတော်အတွက် အခွန်ဘဏ္ဍာငွေများဖြည့်ဆည်းပေးနိုင်ရေး၊ နိုင်ငံတည်ဆောက်ရေးတွင် အခြားသောလုပ်ငန်းများနှင့် တရားမျှတစွာ ယှဉ်ပြိုင်ပြီး ပါဝင်ခွင့်ရရှိရေးအတွက် ကျွန်မတို့၏ အဆိုပြုလျှောက်ထားခြင်းကို လက်ခံစဉ်းစားပေးပါရန်နှင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း(၁၁)၊ ပုဒ်မ(၂၀)အရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များအား ခံစားခွင့်ပြုပါရန် လျှောက်ထားအပ်ပါသည်။




*Office*
No.18 (A), Rm 3-4, 1st Floor
Boyarnyunt St., Yawmingyi Ward,
Dagon Tsp, Yangon, Myanmar.
Ph : (95-1) 248247, 389669, 252127, 377269
Fax: (95-1) 254699

*Factory* - No.8, 13-14,Kyan Sit Thar Street, Zone(3), Hlaing Thar Yar T/S, Yangon, Myanmar. Ph:(95-1) 685037, 685038

အဆိုပြုလွှာနှင့်အတူအောက်ဖော်ပြပါအထောက်အထားစာရွက်စာတန်းများကိုပူးတွဲတင်ပြအပ်ပါသည်။

(က) ကမကထပြုသူ၏လုပ်ငန်းဆောင်ရွက်ရန်အဆိုပြုချက်၊

(ခ) ဘဏ္ဍာရေးအချက်အလက်များနှင့်ပတ်သက်၍တွက်ချက်မှုဇယားများ၊

(ဂ) လုပ်ငန်းပိုင်းနှင့်ငွေရေးကြေးရေးအထောက်အထားများ၊

(ဃ) မြေငှားစာချုပ်၊

(င) ကုမ္ပဏီ၏ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းနှင့် ကုမ္ပဏီမှတ်ပုံတင်ထားပြီးဖြစ်ကြောင်း အထောက်အထားများ၊

လေးစားစွာဖြင့်

ဒေါ်ရင်လီရင့် (ခ) လီလီစမ်း
မန်နေဂျင်းဒါရိုက်တာ
Panda Textile Co., Ltd.



# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

# ရင်းနှီးမြှုပ်နှံလိုသူ၏

# အဆိုပြုချက်

ပုံစံ (မနသ-၁)

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ
ရင်းနှီးမြှုပ်နှံလိုသူ၏အဆိုပြုချက်
[ ဥပဒေပုဒ်မ ၂ ပုဒ်မခွဲ (ဂ) နှင့် ပုဒ်မ ဂ ]

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

စာအမှတ်၊ PDA (CHO)/2015-16/MIC/( )
ရက်စွဲ၊ ၂၀၁၆ခုနှစ်၊ ဇန်နဝါရီလ( )ရက်။

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုပါသဖြင့် ခွင့်ပြုမိန့်ထုတ်ပေးပါရန် အောက်ပါအချက်များကို ဖော်ပြ၍ လျှောက်ထားအပ်ပါသည်။

ရင်းနှီးမြှုပ်နှံလိုသူ၏ -

| | |
|---|---|
| (က) အမည် | ဒေါ်ရင်လီရင့် (ခ) ဒေါ်လီလီစမ်း |
| (ခ) အဖအမည် | ဦးရင်ချီရန် |
| (ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် | ၁၃/မဆတ (ပြု) ၀၀၀၀၅၂ |
| (ဃ) နေရပ်လိပ်စာ | အမှတ်(၇၅)၊ မနော်ဟာရီလမ်း၊ ဒဂုံမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |
| (င) လူမျိုး၊ဘာသာ | တရုတ်-ဗမာ/ဗုဒ္ဓဘာသာ |
| (စ) အဖွဲ့အစည်းအမည် | Panda Textile Co., Ltd. |
| (ဆ) လုပ်ငန်းအမျိုးအစား | ထုတ်လုပ်မှု |
| (ဇ) အဖွဲ့အစည်းတည်ရှိရာအရပ် | အမှတ်(၁၈-အေ)၊ အခန်း (၃/၄)၊ ပထမထပ်၊ ဗိုလ်ရာညွန့်လမ်း၊ ဒဂုံမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |

၂။ ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုပါက ဖက်စပ်ပြုလုပ်မည့်သူများ၏

| | | |
|---|---|---|
| (က) အမည် | - | မရှိပါ. |
| (ခ) အဖအမည် | - | - |
| (ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင် မှတ် | - | - |

(ဃ) နေရပ်လိပ်စာ – –

(င) လူမျိုး၊ ဘာသာ – –

(စ) အဖွဲ့အစည်း အမည် – –

(ဆ) လုပ်ငန်း အမျိုးအစား – –

(နှစ်ဦး သို့မဟုတ် အဖွဲ့အစည်း (၂)ခုထက်ပိုပါက သီးခြားစာရွက်တွင် ဖော်ပြပူးတွဲရန်)

၃။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်လုပ်ငန်းအမျိုးအစား–

(က)ကုန်ထုတ်လုပ်မှုလုပ်ငန်း – ချည်၊ ပိတ်ညို၊ ပိတ်ချောနှင့် ဆေးဆိုးပန်းရိုက်ထည်များ ထုတ်လုပ်ခြင်းလုပ်ငန်း၊

(ခ) ဝန်ဆောင်မှုလုပ်ငန်း – –

၄။ လုပ်ကိုင်မည့် စီးပွားရေးပုံစံ–

(က) နိုင်ငံသားနှင့် နိုင်ငံသားတို့က အစုစပ်လုပ်ကိုင်ဆောင်ရွက်ခြင်း

..............................................................................

(ခ) အဖွဲ့အစည်းနှင့်နိုင်ငံသားတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း

..............................................................................

(ဂ) အဖွဲ့အစည်းနှင့် အခြားအဖွဲ့အစည်းတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း

..............................................................................

၅။ ဖွဲ့စည်းထားပြီးဖြစ်သည့် သို့မဟုတ် ဖွဲ့စည်းမည့်စီးပွားရေးအဖွဲ့အစည်း ပုံသဏ္ဌာန်–

(က) တစ်ဦးတည်းပိုင် ..............................

(ခ) ဖက်စပ်-အစုစပ်လုပ်ငန်း ..............................

(ဂ) လီမိတက်ကုမ္ပဏီ **ပန်ဒါ အထည်လုပ်ငန်း ကုမ္ပဏီ လီမိတက်**

(ဃ) သမဝါယမအသင်း ..............................

(အများနှင့်မသက်ဆိုင်သည့်ကုမ္ပဏီ-အများပိုင်ကုမ္ပဏီဟု ဖော်ပြ၍ ထည့်ဝင်မည့် မတည်ငွေရင်း အချိုးအစား၊ စီမံခန့်ခွဲသူ-စီမံခန့်ခွဲမည့်သူများ၏ အမည်၊ နေရပ်လိပ်စာများနှင့် ရာထူးတို့ကို ပူးတွဲတင်ပြရန်)

၆။ ဖက်စပ်/အစုစပ်လုပ်ငန်းဖြစ်ပါက–

(က) အစုစပ်တို့က ထည့်ဝင်မည့် အစုငွေအမျိုးအစားနှင့် ပမာဏ

..............................................................................

(ခ) အကျိုးအမြတ်ခွဲဝေမည့် အချိုးအစား

..............................................................................

(ဂ) အစုဝင်များ၏တာဝန်နှင့်လုပ်ပိုင်ခွင့်များ

..............................................................................

(နေရာမလုံလောက်က သီးခြားစာရွက်ဖြင့် ဖော်ပြရန်)။

၇။ သမဝါယမအသင်း၊ လီမိတက်ကုမ္ပဏီဖြစ်ပါက–

(က) ခွင့်ပြုမတည်ငွေရင်း – ကျပ် (၅၀၀,၀၀၀,၀၀၀/–) (ကျပ်သန်းငါးရာတိတိ)

(ခ) အစုရှယ်ယာ အမျိုးအစား – ကျပ် ၁၀,၀၀၀/– တန် အစုရှယ်ယာပေါင်း – ၅၀,၀၀၀ (ငါးသောင်းတိတိ)

(ဂ) အစုရှယ်ယာဝင်များက ထည့်ဝင်မည့် အစုရှယ်ယာပမာဏ – ကျပ် ၁၅၀၀,၀၀၀,၀၀၀/–

**မှတ်ချက်။ အဆိုပြုလုပ်ငန်းအတွက် ကော်မရှင်၏ခွင့်ပြုချက်ရရှိပါက ခွင့်ပြုမတည်ငွေရင်းကို မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေနှင့်အညီ တိုးမြှင့်ပြင်ဆင် ဆောင်ရွက်သွားမည်ဖြစ်ပါသည်။**

၈။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် အဖွဲ့အစည်းနှင့် သက်ဆိုင်သော အချက်အလက်များ –

(က) မတည်ငွေရင်းပမာဏ(ကျပ်)

| | | အမေရိကန်ဒေါ်လာ | ကျပ် | စုစုပေါင်း ညီမျှသောကျပ် (1 US$ = ၁၁၀၀ ကျပ်) |
|---|---|---|---|---|
| (၁) | ငွေပမာဏ | – | ၈၅၈,၇၀၀,၀၀၀ | ၈၅၈,၇၀၀,၀၀၀ |
| (၂) | စက်ပစ္စည်းတန်ဖိုးပမာဏ | ၃၇၃,၀၀၀ | | ၄၁၀,၃၀၀,၀၀၀ |
| (၃) | အဆောက်အအုံများ/ မြေ | | ၃၆၀,၀၀၀,၀၀၀ | ၃၆၀,၀၀၀,၀၀၀ |
| (၄) | ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းများ တန်ဖိုးပမာဏ | – | – | – |
| (၅) | ကုန်ကြမ်း | – | – | – |
| | **စုစုပေါင်း** | **၃၇၃,၀၀၀** | **၁,၃၁၈,၇၀၀,၀၀၀** | **၁,၇၃၀,၀၀၀,၀၀၀** |

(ခ) နိုင်ငံခြားမှ တင်သွင်းရန် လိုအပ်သည့်

| | | အမေရိကန်ဒေါ်လာ | ညီမျှသောကျပ် (1 US$ = ၁၁၀၀ ကျပ်) |
|---|---|---|---|
| (၁) | စက်ပစ္စည်းကိရိယာများ | ၃၇၃,၀၀၀ | ၄၁၀,၃၀၀,၀၀၀ |
| (၂) | ကုန်ကြမ်းပစ္စည်းများနှင့်အခြားအလားတူ ပစ္စည်းများ၏ တန်ဖိုးပမာဏ | – | – |
| (၃) | ကျွမ်းကျင်မှု နည်းပညာရပ်၏ ပမာဏ | | |
| | **စုစုပေါင်း** | **၃၇၃,၀၀၀** | **၄၁၀,၃၀၀,၀၀၀** |

(ဂ) တည်ဆောက်မှုကာလ – (၁)နှစ်

(ဃ) ပဏာမ စူးစမ်းလေ့လာမှု ပြုလုပ်မည့်ကာလ – (၂)လ

(င) တည်ဆောက်မှု စတင်မည့်အချိန် – ခွင့်ပြုမိန့်ရရှိပြီး ရက်ပေါင်း (၆၀)အတွင်း

၉။ ဆောင်ရွက်မည့် စီးပွားရေးလုပ်ငန်းနှင့် သက်ဆိုင်သော အချက်အလက်များ–

(က) လုပ်ငန်းအမျိုးအစား – ချည်၊ ပိတ်ညို၊ ပိတ်ချောနှင့် ဆေးဆိုးပန်းရိုက်ထည်များ ထုတ်လုပ်ခြင်းလုပ်ငန်း။

(ခ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်ဒေသများ – မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်ခရိုင်၊ စဉ့်ကိုင်မြို့နယ်၊ မန္တလေး – တံတားဦး ကားလမ်းကြားတွင် တည်ရှိသော အမှတ်(၂)၊ အထည်စက်ရုံ(ပလိပ်)

(ဂ) ဆောင်ရွက်ပုံနည်းစနစ် – နိုင်ငံတကာ အဆင့်မီ ထုတ်လုပ်ခြင်း

(ဃ) နှစ်စဉ်စက်သုံးဆီလိုအပ်ချက် –

| အမျိုးအစား | အရေအတွက် (year-1) |
|---|---|
| ၁။ ဒီဇယ် | 3,200 gal |
| ၂။ ဓါတ်ဆီ | 640 gal |
| ၃။ ချောဆီ | 64 gal |

(င) နှစ်စဉ်လျှပ်စစ်ဓါတ်အားလိုအပ်ချက်–

| အားအသုံးပြုမှု | မြင်းကောင်ရေ |
|---|---|
| ၁။ လျှပ်စစ်ဓါတ်အား | 410,000 Unit |
| ၂။ ဓါတ်ဆီ/ဒီဇယ်အင်ဂျင်စက်အင်အား | ၂၅၀/၅၀၀ KVA |
| ၃။ ဘွိုင်လာအသုံးပြုအင်ဂျင်စက်အား | |
| ၄။ သဘာဝဓါတ်ငွေ့သုံးစက်အား | ........................ |
| ၅။ ပေးပို့သည့်အခြားအား (ရေအား/လေအားစသည်များ) | ........................ |

(စ) နှစ်စဉ်ရေလိုအပ်ချက် ၃,၀၀၀,၀၀၀ ဂါလံ
(နေ့စဉ်ရေလိုအပ်ချက်ရှိလျှင်ဖော်ပြရန်)တစ်ရက် ၁၀,၀၀၀ ဂါလံ

(ဆ) နှစ်စဉ်လုပ်ငန်းပစ္စည်း/ကုန်ကြမ်းလိုအပ်ချက်
- (၁) အဓိကကုန်ကြမ်း – နောက်ဆက်တွဲ – (၆–၁ နှင့် ၆–၂)
- (၂) အထောက်အကူကုန်ကြမ်း – နောက်ဆက်တွဲ – (၆–၁ နှင့် ၆–၂)
- (၃) စက်သုံးဆီ/ဓါတ်ငွေ့များ – နောက်ဆက်တွဲ (၇)

(ဇ) အဆောက်အအုံလိုအပ်ချက် – နောက်ဆက်တွဲ (၅)

(ဈ) မြေနေရာအမျိုးအစားနှင့်အကျယ်အဝန်းလိုအပ်ချက် – စက်မှုမြေ ( ၆၄၁.၇၅ )ဧက ၂၇၉.၅၄ စတုရန်းပေ (သိန်းပေါင်း)

(ည) ခန့်မှန်းထုတ်လုပ်မည့်ကုန်ပစ္စည်း ဆောင်ရွက်မည့်ဝန်ဆောင်မှု – နောက်ဆက်တွဲ – (၁၁–၁) နှင့် (၁၁–၂)

(ဋ) ရောင်းချမည့်နည်းစနစ် – သွင်းကုန်အစားထိုးအဖြစ်ပြည်တွင်းတွင် (၈၀)ရာခိုင်နှုန်း/ပြည်ပသို့ (၂၀)ရာခိုင်နှုန်း

၁၀။ နှစ်စဉ်ကုန်ထုတ်လုပ်မှု/ဝန်ဆောင်မှုနှင့် စပ်လျဉ်းသော အချက်အလက်များ-

| | | ခန့်မှန်းခြေ |
|---|---|---|
| | | ကျပ်ငွေ နိုင်ငံခြားငွေ |
| (က) | လုပ်ငန်းလည်ပတ်ရန် လိုအပ်မည့် ကျပ်ငွေ | နောက်ဆက်တွဲ - (၁၃-၁)(၁၃-၂)(၁၃-၃) |
| (ခ) | လိုအပ်မည့် နိုင်ငံခြားသုံးငွေ | နောက်ဆက်တွဲ - (၁၃-၁)(၁၃-၂)(၁၃-၃) |
| (ဂ) | ရရှိမည့် နိုင်ငံခြားသုံး ငွေပမာဏ | နောက်ဆက်တွဲ - (-) |
| (ဃ) | ပြည်ပသို့-တင်ပို့ရောင်းချနိုင်မည့် ကုန်ပစ္စည်း/ ဝန်ဆောင်မှု တန်ဖိုးပမာဏ | နောက်ဆက်တွဲ - (၁၂-၁)(၁၂-၂) |
| (င) | နှစ်စဉ်ပြည်တွင်းရောင်းချနိုင်မည့် ကုန်ပစ္စည်း/ဝန်ဆောင်မှုတန်ဖိုးပမာဏ | နောက်ဆက်တွဲ - (၁၂-၁)(၁၂-၂) |

၁၁။ ဆောင်ရွက်မည့် စီးပွားရေးလုပ်ငန်းတွင် လိုအပ်မည့်အမှုထမ်းများ စာရင်း-

| | | |
|---|---|---|
| (က) | ပြည်တွင်းမှ လိုအပ်မည့် အမှုထမ်းများ | (၁၀၆၁) ဦး |
| (ခ) | နိုင်ငံခြားမှလိုအပ်မည့်ကျွမ်းကျင်သူနှင့် အတတ်ပညာရှင်များ | (၁၅) ဦး |

၁၂။ စီပွားရေးတွက်ချေကိုက်မှုနှင့် စပ်လျဉ်းသော အချက်များ-

| | | ကျပ်ငွေ နိုင်ငံခြားငွေ |
|---|---|---|
| (က) | နှစ်စဉ်ဝင်ငွေရရှိမှု | နောက်ဆက်တွဲ - (၁၂-၁)(၁၂-၂) |
| (ခ) | နှစ်စဉ်လုပ်ငန်းကုန်ကျစရိတ် | နောက်ဆက်တွဲ - (၁၀-၁)(၁၀-၂) |
| (ဂ) | နှစ်စဉ်အသားတင်အမြတ် | နောက်ဆက်တွဲ - (၁၂-၁)(၁၂-၂) |
| (ဃ) | နှစ်အလိုက်ရင်းနှီးမြှုပ်နှံမှု | နောက်ဆက်တွဲ - (၂) |
| (င) | အရင်းကျေကာလ | နောက်ဆက်တွဲ - (၁၃-၁)(၁၃-၂)(၁၃-၃) |
| (စ) | အခြားအကျိုးအမြတ်များ | နောက်ဆက်တွဲ - (၁၅) |
| (ဆ) | အလုပ်အကိုင်သစ်များပေါ် ပေါက်လာမည့်အခြေအနေ | နောက်ဆက်တွဲ - (၈) |

၁၃။ ဆောင်ရွက်ရန် အဆိုပြုချက်နှင့်စပ်လျဉ်းသည့်အထောက်အထားများ၊ အဆိုပြုတင်ပြသည့် ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းအတွက် အောက်ဖော်ပြပါ အထောက်အထားများကို ပူးတွဲတင်ပြအပ်ပါသည်။

(က) ပဋိညာဉ်စာချုပ်မူကြမ်း (လိုအပ်သည့်ကိစ္စတွင်)

(ခ) လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေးဆိုင်ရာ အထောက်အထားများ

(ဂ) လက်ရှိဖွဲ့စည်းပြီး အဖွဲ့အစည်းဖြစ်ပါ၍ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း၊

(ဃ) လက်ရှိဖွဲ့စည်းပြီး အဖွဲ့အစည်းဖြစ်ပါ၍ လက်ရှိအခြေအနေနှင့် ပြင်ဆင်ဖွဲ့စည်းမည့် အခြေအနေ အထောက်အထားများ။

လက်မှတ်၊ ......................................

အမည်၊ ဒေါ်ရင်လီရင့် (ခ) လီလီစမ်း

ရာထူး၊ မန်နေဂျင်းဒါရိုက်တာ

Panda Textile Co., Ltd.

(လျှောက်ထားသူ)



**PANDA TEXTILE**
**COMPANY LIMITED**

*Office*
No.18 (A), Rm 3-4, 1st Floor
Boyarnyunt St., Yawmingyi Ward,
Dagon Tsp, Yangon, Myanmar.
Ph : (95-1) 248247, 389669, 252127, 377269
Fax: (95-1) 254699

*Factory* - No.8, 13-14,Kyan Sit Thar Street, Zone(3), Hlaing Thar Yar T/S, Yangon, Myanmar. Ph:(95-1) 685037, 685038

<u>လျှပ်စစ်ဓါတ်အားသုံးစွဲခြင်းနှင့်စပ်လျဉ်း၍ဝန်ခံကတိပြုခြင်း</u>

ကျွန်မတို့၏ ပန်ဒါ အထည်လုပ်ငန်း ကုမ္ပဏီ လီမိတက် (Panda Textile Co., Ltd.)သည် စက်မှုဝန်ကြီးဌာန၊ အထည်အလိပ်လုပ်ငန်းပိုင် မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်ခရိုင်၊ .စဉ့်ကိုင်မြို့နယ်၊ မန္တလေး - တံတားဦး မီးရထားလမ်းနှင့် ပလိပ်တံတားဦး ကားလမ်းကြားတွင် တည်ရှိသော အမှတ်(၂) အထည်စက်ရုံ (ပလိပ်)ရှိ စက်ရုံနှင့်မြေ(၆၄၁. ၇၅)ဧက ကို ကနဦး(၅၀)နှစ်နှင့်နောက်ထပ်(၁၀)နှစ်(၂) ကြိမ် ငှားရမ်းပြီး အဆိုပါမြေ(၆၄၁. ၇၅)ဧက ပေါ်တွင် ချည်၊ ပိတ်ညို၊ ပိတ်ချောနှင့် ဆေးဆိုးပန်းရိုက်ထည်များ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်မည် ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် လုပ်ငန်းဆောင်ရွက်မည် ဖြစ်ပါသည်။

အဆိုပြုလုပ်ငန်းအတွက် လိုအပ်သော လျှပ်စစ်ဓါတ်အားကို မဟာဓါတ်အားလိုင်းမှ ရယူဆောင်ရွက်သွားမည်ဖြစ်ပြီး မရရှိသည့်အချိန်တွင် ကိုယ်ပိုင်မီးစက်များကို အသုံးပြုဆောင်ရွက်သွားမည်ဖြစ်ကြောင်း ကတိပြုပါသည်။

လေးစားစွာဖြင့်

ဒေါ်ရင်လီရင့် (ခ) လီလီစမ်း
မန်နေဂျင်းဒါရိုက်တာ
Panda Textile Co., Ltd.

